ကုမ္ပဏီအမည် - San Lin International Export and Import Co., Ltd.

လုပ်ငန်း - သံသတ္တုသန့်စင် အကြီးစားတူးဖော်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၂-၁၂-၂၀၁၄ | | |
| ၂ | PAT (၂/၂၀၁၅) (၂-၁-၂၀၁၅) အစည်းအဝေးတင်ပြခြင်း | ၂-၁-၂၀၁၅ | | |
| ၃ | အဆိုပြုလွှာလက်ခံကြောင်းပြန်ကြားခြင်း | ၂၀-၁-၂၀၁၅ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| ၅ | (က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၆-၁-၂၀၁၅ | ၂၃-၁-၂၀၁၅ | |
| ၆ | (ခ) ကချင်ပြည်နယ် အစိုးရအဖွဲ့ရုံး | ၆-၁-၂၀၁၅ | ၁၇-၂-၂၀၁၅ | (ပထမအကြိမ်) |
| ၇ | (ဂ) စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၂-၁-၂၀၁၅ | ၆-၁-၂၀၁၅ | |
| ၈ | (ဃ) ကချင်ပြည်နယ်အစိုးရအဖွဲ့၏သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်ကုမ္ပဏီသို့အကြောင်းကြားစာပေးပို့ခြင်း | ၂၃-၂-၂၀၁၅ | | |
| ၉ | ကုမ္ပဏီမှကချင်ပြည်နယ်သဘောထားမှတ်ချက်နှင့်အညီပြန်လည်တင်ပြလာခြင်း | ၂၅-၂-၂၀၁၅ | | |
| ၁၀ | မြေအသုံးပြုခွင့်တင်ပြခြင်း | - | - | အစိုးရပိုင်မြေ (မြေလွတ်မြေရိုင်း) |
| ၁၁ | ကချင်ပြည်နယ်သဘောထားမှတ်ချက်အရ မြေယာလျော်ကြေးကိစ္စ ကချင်ပြည်နယ်အစိုးရအဖွဲ့သဘောထားဖြင့်ပြန်လည်တင်ပြရန်အကြောင်းကြားခြင်း | ၁၄-၅-၂၀၁၅ | ၂၁-၆-၂၀၁၅ | (ဒုတိယအကြိမ်) |
| ၁၂ | သတ္တုတွင်းဝန်ကြီးဌာနသို့အဆိုပြုလွှာပြန်လည်ပေးပို့ခြင်း | ၁၄-၅-၂၀၁၅ | | |
| ၁၃ | ကုမ္ပဏီမှဒုတိယအကြိမ်ကချင်ပြည်နယ်အစိုးရအဖွဲ့သဘောထားဖြင့်လိုအပ်ချက်ပြင်ဆင်တင်ပြလာခြင်း | ၂၆-၆-၂၀၁၅ | | |
| ၁၄ | ကုမ္ပဏီမှလိုအပ်ချက်များပြန်လည်ပြင်ဆင်၍အဆိုပြုချက်(၇)စုံပေးပို့ခြင်း | ၂၉-၆-၂၀၁၅ | | |
| | ကော်မရှင်အစည်းအဝေး | ၁၂/၂၀၁၅ (၃-၇-၂၀၁၅) | | |
| | စုစုပေါင်းကြာမြင့်ရက် (၄၉) ရက် | | | |

လို့ဝှက်

| | |
|---|---|
| ကုမ္ပဏီအမည် | San Lin International Export and Import Co., Ltd. **(ဆန်းလင်း အင်တာနေရှင်နယ် အိတ်(စ်)ပို့အင်(န်) အင်ပို့ ကုမ္ပဏီလီမိတက်)** |
| အဖွဲ့အစည်းပုံသဏ္ဍာန် | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်စနစ်ဖြင့်သံသတ္တုအကြီးစားတူးဖော်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ ဖိမော်ကျေးရွာအုပ်စု၊ လုနော့ဂျန်လုပ်ကွက်ရှိမြေ ၁၉၈ ဧက (၀.၀၈၀၃ စတုရန်းကီလိုမီတာ) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | အမေရိကန် ဒေါ်လာ ၁.၉၉၇ သန်း အပါအဝင် စုစုပေါင်း ကျပ် သန်း ၂၄၀၀ |
| ရောင်းချမည့်စနစ် | ပြည်ပသို့ ၁၀၀ % ရောင်းချခြင်း |
| လုပ်ငန်းသက်တမ်း | ထူထောင်မှုကာလ ၁နှစ်အပါအဝင် ထုတ်လုပ်မှု သက်တမ်း ၁၅ နှစ် |
| အရင်းကြေကာလ | ၆နှစ် နှင့် ၂လ |
| IRR | ၁၀.၈၃ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost & Benefit** ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း(၁နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | ကျပ် ၇၄.၂ သန်း |
| ၄ | ဝင်ငွေခွန် | ကျပ် ၁၈.၆၆ သန်း | ကျပ် ၁၈.၆၇ သန်း |
| ၅ | ဓါတ်သတ္တုခွန် | - | ကျပ် ၀.၁၄၅ သန်း |
| ၆ | ကုန်သွယ်လုပ်ငန်းခွန် | | |
| ၇ | လျှပ်စစ်မီးသုံးစွဲခ | | |
| ၈ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ် ဝင်ငွေ ကျပ် ၂ သန်း (ကျပ် နှစ်သန်းကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၄၈) ဦး |
| ၉ | CSR (၂%) | - | ကျပ် ၁.၁၂ သန်း |
| ၁၀ | မြေငှားရမ်းခရငွေ | - | ကျပ် ၂.၄၀ သန်း |
| ၁၁ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်း ၉၂ ဦး |
| | | ကျပ် ၂၁.၆၆ သန်း | ကျပ် ၉၇.၇၄ သန်း |
| | ၁ : ၅ | | |

**ကန့်သတ်**

အကြောင်းအရာ။ **သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၁) သတ္တုတွင်းလုပ်ငန်း နှင့် San Lin International Export and Import Co., Ltd. တို့၏ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့် ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ဝိုင်းမော်မြို့နယ်၊ ဖီမော်ကျေးရွာအုပ်စု၊ လုနော့ဂျန်သတ္တုလုပ်ကွက်တွင် သံသတ္တုသန့်စင်အကြီးစားတူးဖော်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - San Lin International Export and Import Co., Ltd. (ဆန်းလင်း အင်တာနေရှင်နယ် အိတ်စ်ပို့ အင်န် အင်ပို့ ကုမ္ပဏီ လီမိတက်) |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဆောင်ညွှန်ကြားရေးမှူး ၊ အမှတ်(၁) သတ္တုတွင်းလုပ်ငန်း |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံသူအမည် | - ဦးမြင့်ဦး(အဘ-ဦးတင်ဦး) |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - PSCစနစ်ဖြင့် သံသတ္တုသန့်စင် အကြီးစား တူးဖော်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ဝိုင်းမော်မြို့နယ်၊ ဖီမော်ကျေးရွာအုပ်စု၊ လုနော့ဂျန် သတ္တုလုပ်ကွက်ရှိ ဧရိယာ ၁၉၈ ဧက (၀.၈၀၁၃) စတုရန်းကီလိုမီတာ |
| ၂။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ထုထောင်မှုကာလ ၁ နှစ် အပါအဝင် သက်တမ်း ၁၅နှစ် |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ (တစ်နှစ်တစ်စတုရန်းကီလိုမီတာ) | - ထုတ်လုပ်မှုကာလ တစ်နှစ်လျှင် ကျပ် ၃.၀ သန်း |
| ၄။ | တည်ဆောက်ရေးကာလ/ ထူထောင်မှုကာလ | - (၁) နှစ် |
| ၅။ | Signature Bonus | - ကျပ် သိန်း ၂၄၀ |
| ၆။ | ရင်းနှီးမြှုပ်နှံမှုပမာဏ **(US$ ၁.၉၉၇ သန်းအပါအဝင် စုစုပေါင်း ကျပ်သန်း ၂၄၀၀)** | **ကျပ်(သန်း)**<br>- ငွေပမာဏ ၉၆.၁<br>- အဆောက်အဦး ၃၆၃.၀<br>- စက်ပစ္စည်း ၁၉၄၀.၉ (US$ ၁.၉၉၇ သန်း)<br>**- စုစုပေါင်း ၂၄၀၀.၀** |

**ကန့်သတ်**

| | | |
|---|---|---|
| ၇။ | ငွေကြေးအထောက်အထား | - ကုမ္ပဏီ အမည်ဖြင့် ကမ္ဘောဇဘဏ် (လမ်းမတော်ဘဏ်ခွဲ) ၌ (၂၅-၉-၂၀၁၄) နေ့စွဲရှိ လက်ကျန် ငွေကျပ် (၆၀.၀၀၁) သန်း တင်ပြထားရာ သုံးစွဲရန် ငွေကျပ် (၉၆) သန်း ၏ ၆၂.၅ % နှင့် နိုင်ငံခြားငွေ အဖြစ် MICB ဘဏ်ရှိ ငွေ လက်ကျန် US$ (၀.၃၈) သန်း တင်ပြထားရာ သုံးစွဲရန် နိုင်ငံခြား ငွေ US$ (၁.၉၉) သန်း ၏ ၁၉.၁% ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။ |
| ၈။ | သတ္တုသိုက်ပမာဏ | - ဘူမိဗေဒလေ့လာရေးနှင့် ဓာတ်သတ္တု ရှာဖွေရေး ဦးစီးဌာန၏ စိစစ်ချက်အရ လုနေ့ဘ့ဂျန်လုပ်ကွက်(၁)၏ Fe-၃၁.၅၆ ပါဝင်သော (သ-၃) အဆင့် သံသတ္တုရိုင်းတန်ချိန် ၂၈၁၄၂ မက်ထရစ်တန် ၊လုပ်ကွက်(၄) ၏ Fe- ၃၀.၇၁ ပါဝင်သော သံသတ္တုရိုင်း တန်ချိန် ၁၃၅၁၂၂ မက်ထရစ်တန်၊ လုပ်ကွက်(၂) နှင့်(၃)၏ ပျမ်းမျှသံ(Fe) ၃၆.၁၈ % ပါဝင်သော(သ-၃)အဆင့် စုစုပေါင်း သံသတ္တုရိုင်းတန်ချိန် ၁,၆၀၃,၄၈၄ မက်ထရစ်တန်သည်လက်ခံ နိုင်ဖွယ်ဖြစ်ကြောင်း ပြန်ကြားထားပါသည်။ |
| ၉။ | ခွဲဝေမှုအချိုး | - အရည်အသွေး အနည်းဆုံး ၆၃.၅% နှင့်အထက် ပါဝင်သည့် သံ သတ္တုသန့်စင် ထုတ်လုပ်မှုစုစုပေါင်း၏ ၄ % ကို နိုင်ငံတော် အတွက် ဓာတ်သတ္တုခွန်အဖြစ်ပေးဆောင်ပြီး ကျန်သံသတ္တု များ အပေါ်အမှတ်(၁)သတ္တုတွင်းလုပ်ငန်းမှ ၃၀%နှင့် ကုမ္ပဏီ မှ ၇၀% အချိုးဖြင့် ခွဲဝေရယူမည်ဖြစ်ပါသည်။ |
| ၁၀။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်ပသို့ တင်ပို့ရောင်းချခြင်း (Export on LME price basis) |
| ၁၁။ | နှစ်စဉ်ထုတ်လုပ်မှု (သံသတ္တုသန့်စင်) | - ၂၅,၀၀၀ (မက်ထရစ်တန်) |
| ၁၂။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်(ဆဋ္ဌမနှစ်) | |
| | ဓာတ်သတ္တုခွန်(၄%) | - US$ ၀.၁၅ သန်း |
| | သတလ(၁)ဝေစု(၃၀%) | - US$ ၁.၀၄ သန်း |
| | ဝင်ငွေခွန် | - ကျပ် ၁၈.၆၆ သန်း |
| ၁၃။ | ဝန်ထမ်းအင်အား | - ပြည်တွင်း ၉၂ ဦး<br>- ပြည်ပကျွမ်းကျင်ပညာရှင်များအားလိုအပ်မှခန့်ထားပါမည်။ |

| | | |
|---|---|---|
| ၁၄။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်)<br>အသုံးစရိတ်<br>အသားတင်အမြတ် | - ကျပ် ၂၃၆၂.၉၂ သန်း (US$ ၂.၄၄သန်း)<br>- ကျပ် ၂၃၀၂.၉၂ သန်း<br>- ကျပ် ၆၀.၀၀ သန်း |
| ၁၅။ | အရင်းကြေကာလ | - ၆ နှစ် ၂ လ |
| ၁၆။ | အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၀.၈၃ % |
| ၁၇။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - ထုတ်လုပ်မှုမစတင်မီ သတ္တုတွင်းထူထောင်မှုကာလ၌ ကျပ် ၂၅ သိန်း<br>- စီးပွားဖြစ်ထုတ်လုပ်မှု ကာလတစ်လျှောက်တွင် ကုမ္ပဏီ၏ နှစ်စဉ် အသားတင်အမြတ်ငွေအပေါ် ၂% နှင့်ညီမျှသော ငွေကို ရန်ပုံငွေထည့်ဝင်သုံးစွဲမည်ဖြစ်ပြီး<br>စာကြည့်တိုက်များထူထောင်ပေးခြင်း ၁၅ %<br>ဆေးပေးခန်းများထူထောင်ပေးခြင်း ၂၅ %<br>ရေမြောင်းများပြုလုပ်ပေးခြင်း ၂၀ %<br>ပညာရေးထောက်ပံ့ငွေ ပေးအပ်ခြင်း ၂၀ %<br>လျှပ်စစ်မီးရရှိရေးဆောင်ရွက်ပေးခြင်း ၂၀ % ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၈။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက်ရေးဆွဲ တင်ပြထားပါသည်။ |
| ၁၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - လျှပ်စစ်ဓါတ်အားကိုကိုယ်ပိုင် 30 KVA Generator တပ်ဆင်အသုံးပြုမည် ဖြစ်ပါသည်။ |
| ၂၀။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် | - ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် EIA, SIA အစီရင်ခံစာကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရရှိပြီး (၅)လအတွင်း တင်ပြသွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ |
| | သတ္တုတွင်းပိတ်သိမ်းမှုလုပ်ငန်းစဉ်အစီအစဉ် | - Mine Closure Plan အတွက် တစ်နှစ်လျှင် ကျပ်သိန်း (၅၀)သုံးစွဲရန်လျာထားကြောင်းတင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၂၁။ | **စိစစ်တင်ပြချက်** | (က) အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၂၃/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးမှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းကို သဘောတူဆုံးဖြတ်ခဲ့ ကြောင်း သတ္တုတွင်းဝန်ကြီးဌာနမှ တင်ပြထားပါသည်။<br>(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ ကချင်ပြည် နယ်အစိုးရအဖွဲ့၏ ထောက်ခံချက်အား (၂၁-၆-၂၀၁၅) ရက်စွဲ ဖြင့်လည်းကောင်း၊ လုနေဘ့ဂျန် ကျေးရွာအုပ်စု အုပ်ချုပ်ရေးမှူး ၏ ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံချက်၊ ဒေသခံပြည်သူ များ၏ ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံချက်များ ရရှိပြီးဖြစ် ကြောင်း တင်ပြထားပါသည်။<br>(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၅၀/၂၀၁၄ အရ သဘာဝအရင်းအမြစ် တူးဖော်ထုတ် လုပ်သည့် လုပ်ငန်းများမှာ အကောက်ခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်၊ ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် နှင့် သက် သာခွင့်ပေးရန်မလိုသော ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများတွင် ပါဝင် သည့်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅) နှစ်သာ ရရှိနိုင် မည်ဖြစ်ကြောင်း စိစစ်ရပါသည်။<br>(ဃ) ပြည်ပမှ တင်သွင်းမည့် အမေရိကန် ဒေါ်လာ (၁.၉၉၇)သန်း တန်ဖိုးရှိ စက်ပစ္စည်းများအား အခွန်အကောက် ပေးဆောင်၍ တင်သွင်းရမည် ဖြစ်ပါသည်။<br>(င) ကုမ္ပဏီမှ ၁၈-၁-၂၀၁၃ မှ ၁၇-၇-၂၀၁၃ အထိ ဓာတ်သတ္တု စမ်းသပ် တိုင်းတာခြင်းလုပ်ငန်း ဆောင်ရွက်ပြီး ဖြစ်ကြောင်း သတ္တုတွင်းဝန်ကြီးဌာန၏ ဓာတ်သတ္တု စမ်းသပ်တိုင်းတာရန် ခွင့်ပြုမိန့်နှင့် ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တု ရှာဖွေရေး ဦးစီးဌာန၏ ဓာတ်သတ္တုပါဝင်နှုန်း အတည်ပြုချက် တင်ပြထား ပါသည်။<br>(စ) အဆိုပြုလုပ်ငန်း နှင့်အလားတူ Htoo International Industrial Group Co., Ltd. မှ ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့် |

| | | |
|---|---|---|
| | | စနစ်ဖြင့် သံသတ္တုရိုင်း တူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းကို ကော်မရှင်ခွင့်ပြုမိန့်အမှတ် ၇၁၈/၂၀၀၉ (၃၀-၁၁-၂၀၀၉) ဖြင့် မြစ်ကြီးနားခရိုင်၊ ဝိုင်းမော်မြို့နယ်၊ ကန်တော်ယန်ဒေသရှိ မြေ (၉၅၇၃)ဧကတွင် ဆောင်ရွက်လျက်ရှိပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၅(သ)/၀၀၃/၂၀၁၅ (၁၈၆)

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇွန် လ ၃၀ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၁) သတ္တုတွင်းလုပ်ငန်း နှင့် San Lin International Export and Import Co., Ltd. တို့၏ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်(PSC)စနစ်ဖြင့် သံသတ္တုသန့်စင် အကြီးစားတူးဖော် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၁) သတ္တုတွင်းလုပ်ငန်း နှင့် San Lin International Export and Import Co., Ltd. တို့သည် ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ ဖိမော်ကျေးရွာအုပ်စု၊ လုနေဒ့ဂျန်ကျေးရွာအနီးရှိ လုပ်ကွက် (၄)ကွက်၊ စုစုပေါင်းဧရိယာ ၁၉၈ ဧက (၀.၈၀၁၃ စတုရန်းကီလိုမီတာ)ပေါ်တွင် ထုတ်လုပ်မှု အပေါ်ခွဲဝေ ခံစားသည့် (PSC) စနစ်ဖြင့် သံသတ္တုသန့်စင် အကြီးစားတူးဖော် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သတ္တုတွင်းဝန်ကြီးဌာန မှတဆင့် အဆိုပြုတင်ပြလာပါသည်။

၂။ သတ္တုတွင်းဝန်ကြီးဌာနသည် အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်အတွက် ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၂၀ ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၂၃/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေး မှ ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ ဖိမော်ကျေးရွာအုပ်စု၊ လုနေဒ့ဂျန်ကျေးရွာအနီးရှိ လုပ်ကွက် (၄)ကွက်၊ စုစုပေါင်းဧရိယာ ၁၉၈ ဧက(၀.၈၀၁၃ စတုရန်းကီလိုမီတာ) တွင် San Lin International Export and Import Co., Ltd. သို့ (၁၅) နှစ်သက်တမ်းရှိသော သံသတ္တုသန့်စင် အကြီးစားတူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကို သဘောတူဆုံးဖြတ်ချက် ရရှိပြီးဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၉၉၇ သန်း အပါအဝင် စုစုပေါင်း ကျပ် သန်း ၂,၄၀၀ ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ ၁.၉၉၇ သန်း တန်ဘိုးရှိ လုပ်ငန်းသုံး ယာဉ်၊ ယန္တရား၊ စက်ပစ္စည်းများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | စုစုပေါင်းကျပ်(သန်း) | |
|---|---|---|
| (က)ငွေပမာဏ | ၉၆.၁၀ | |
| (ခ) အဆောက်အဦးတန်ဖိုး | ၃၆၃.၀၀ | |
| (ဂ) စက်ပစ္စည်းတန်ဖိုး | ၁၉၄၀.၉၀ | (US$ ၁.၉၉၇ သန်း) |
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၂၄၀၀.၀၀** | |

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၉၂) ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပြီး ပြည်တွင်းဝန်ထမ်း(၁) ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်(၁၀၀,၀၀၀) ဖြစ်၍ အမြင့်ဆုံး လစာ မှာ ကျပ် (၈၀၀,၀၀၀) ဖြစ်ပါသည်။ နိုင်ငံခြားသား ကျွမ်းကျင်ပညာရှင် များအား လိုအပ်မှသာ အချိန်ပိုင်းအကြံပေးအဖြစ် ခန့်ထားမည်ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှထွက်ရှိသော အရည်အသွေးအနည်းဆုံး ၆၃.၅၂ % ရှိ သန့်စင်ပြီး သံသတ္တု များကို တစ်နှစ်လျှင် မက်ထရစ်တန် ၂၅,၀၀၀ ထိ ထုတ်လုပ်၍ London Metal Exchange ဈေးနှုန်း ဖြင့် ပြည်ပနိုင်ငံများသို့ ၁၀၀% တင်ပို့ရောင်းချသွားမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်)ရှိ ကုမ္ပဏီ၏ ထုတ်လုပ်မှု၊ ရောင်းချမည့်ဈေးနှုန်း နှင့် ဝင်ငွေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **စဉ်** | **အမျိုးအမည်** | **ထုတ်လုပ်မှု (မက်ထရစ်တန်)** | **တစ်မက်ထရစ်တန် ရောင်းဈေးနှုန်း(US$)** | **ဝင်ငွေ (US$ သန်း)** |
|---|---|---|---|---|
| (က) | သန့်စင်ပြီးသံသတ္တု | ၁၆,၈၀၀ | ၁၄၅ | ၂.၄၃၆ |

၆။ ယင်းလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် နိုင်ငံတော်မှရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းအဖြစ်ပါသည်။

| | | | |
|---|---|---|---|
| (က) | ဓါတ်သတ္တုခွန် (၄%) | US$(သန်း) | ၀.၁၄၅ |
| (ခ) | သတလ(၁)ဝေစု(၃၀%) | US$(သန်း) | ၁.၀၄၄ |
| (ဂ) | ဝင်ငွေခွန် | ကျပ်သန်း | ၁၈.၆၆ |

၇။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၆)နှစ်နှင့်(၂)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၀.၈၃ ရာခိုင်နှုန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၉၇၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၈။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆နှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် ဝင်ငွေ၊ အသုံးစရိတ်နှင့်အသားတင်အမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**အမေရိကန်တစ်ဒေါ်လာ = ၉၇၀ ကျပ်**

| **စဉ်** | **အကြောင်းအရာ** | **US$ (သန်း)** | **ညီမျှသော ကျပ်(သန်း)** | **ကျပ်ငွေဖြင့် ကျပ် (သန်း)** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၂.၄၃၆ | ၂၃၆၂.၉၂ | - | ၂၃၆၂.၉၂ |
| (ခ) | အသုံးစရိတ် | ၀.၁၂၂ | ၁၁၈.၁၅ | ၂၁၈၈.၇၈ | ၂၃၀၆.၉၃ |
| (ဂ) | အသားတင်အမြတ် | ၂.၃၁၄ | ၂၂၄၄.၇၇ | (၂၁၈၈.၇၈) | ၅၅.၉၉ |

၉။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ ပြင်ဆင်ထား သည့် သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၁)သတ္တုတွင်းလုပ်ငန်း နှင့် San Lin International Export and Import Co., Ltd. တို့ချုပ်ဆိုမည့် လုပ်ငန်းသဘောတူစာချုပ် (PSC စာချုပ်မူကြမ်း) နှင့် လုပ်ငန်း

တည်နေရာပြမြေပုံများကို ပူးတွဲတင်ပြထားပါသည်။ စာချုပ်မူကြမ်းပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က)လုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်ဧရိယာမှာစုစုပေါင်း ၁၉၈ ဧက (၀.၈၀၁၃ စတုရန်းကီလိုမီတာ) ဖြစ်ပါသည်။**(အပိုဒ်၄-၁)**

(ခ) လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်ကို နိုင်ငံတော်အစိုးရမှ စီမံကိန်းတစ်ခုခုတွင် အသုံးပြုရန် လိုအပ်ခဲ့လျှင် ကန်ထရိုက်တာဖြစ်သူက မိမိလက်ဝယ်ရယူထားသော လုပ်ကွက်ကို အစိုးရ သို့ ပြန်လည်အပ်နှံရမည်ဖြစ်ပြီး သင့်လျော်သော သတ္တုလုပ်ကွက်ကို ကန်ထရိုက်တာ နစ်နာမှုမရှိစေရန် နှစ်ဦးနှစ်ဖက် ညှိနှိုင်း ဆောင်ရွက်ရမည်။ **(အပိုဒ် ၄-၂)**

(ဂ) ခွင့်ပြုသည့်ကာလမှာ လုပ်ငန်း စတင်လုပ်ကိုင် ခွင့်ပြုသည့်ရက်မှစ၍ (၁၅) နှစ် ဖြစ်သည်။ သက်တမ်းတိုးလိုပါက မြန်မာ့သတ္တုတွင်း နည်းဥပဒေများနှင့်အညီ တစ်ကြိမ်လျှင် (၅) နှစ် ထက်မပိုသော သက်တမ်းကို သတလ(၁) မှတဆင့် သတ္တုတွင်းဝန်ကြီးဌာနသို့ လျှောက်ထားနိုင်သည်။ **(အပိုဒ်- ၈)**

(ဃ)လုပ်ငန်းအစီအစဉ်များကို ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရမှ ပြဋ္ဌာန်းထုတ်ပြန်ထားသော မြန်မာ့သတ္တုတွင်းဥပဒေ၊ နည်းဥပဒေများ၊ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ အမိန့်ကြော်ငြာစာများ၊ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ရမည်။ **(အပိုဒ် ၉-၁-ဆ)**

(င) ဤသဘောတူစာချုပ် သက်တမ်းကုန်ဆုံးလျှင်သော်လည်းကောင်း၊ အကြောင်းတစ်ရပ်ရပ်ကြောင့် လုပ်ငန်းရပ်စဲ၍စာချုပ်အား ရပ်စဲလျှင်သော်လည်းကောင်း၊ သတ္တုတွင်းဝန်ကြီးဌာနမှ စိစစ်လက်ခံအတည်ပြုထားသော သတ္တုတွင်းလုပ်ကွက်ပိတ်သိမ်းမှု အစီအစဉ် (Mine Clouser Plan) အတိုင်း စနစ်တကျ အကောင်အထည်ဖော်ဆောင်ရွက်ရမည်။ **(အပိုဒ်- ၉-၁-ဗ)**

(စ)ကန်ထရိုက်တာသည် ပုံသေမြေငှားရမ်းခ (Dead Rent) ကိုမြန်မာ့သတ္တုတွင်းဥပဒေ၊ နည်းဥပဒေများပါပြဋ္ဌာန်းချက်များ၊ သတ္တုတွင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၂၉-၈-၂၀၁၁ ရက်စွဲပါစာအမှတ်၊ ၁(ခွဲ)(၁)/၁၁(၄၄၈၄) အရ ဦးစီးဌာနသို့ ပထမနှစ်အတွက် စာချုပ်မချုပ်မီ ပေးဆောင်ရမည်။ ကျန်နှစ်စဉ်ပေးဆောင်ရမည့် မြေငှားရမ်းခများကို ပေးချေရန်ကျရောက်သည့်နေ့မတိုင်မီ ရက်ပေါင်း(၃၀)အတွင်း ပေးဆောင်ရမည်။ **(အပိုဒ် ၁၂-၂)**

(ဆ) တူးဖော်ထုတ်လုပ်ရာမှ ထွက်ရှိလာသော သံသတ္တုတန်ချိန်စုစုပေါင်း၏ ၄% ကို နိုင်ငံတော်အတွက် ခါတ်သတ္တုခွန်အဖြစ် သတ္တုတွင်းဝန်ကြီးဌာနသို့ပေးဆောင်ပြီးနောက်

ကျန်ရှိသော သံသတ္တုတန်ချိန်အပေါ်တွင် သတလ(၁)မှ (၃၀)ရာခိုင်နှုန်းနှင့် ကန်ထရိုက်တာ မှ (၇၀)ရာခိုင်နှုန်း အချိုးဖြင့် ခွဲဝေယူရမည်။ **(အပိုဒ် ၁၃-၁)**

(ဇ) သတလ (၁)မှ အချိုးကျ ရရှိမည့် ဓါတ်သတ္တုခွန်အတွက် ရရှိသည့်သတ္တုများကိုရောင်းချရာ၌ London Metal Exchange(LME)ဈေးနှုန်းကို အခြေခံ၍ သတ္တုတွင်းဝန်ကြီးဌာနမှ တွက်ချက်ထားသော ဈေးနှုန်းထောက်ခံချက်ဖြင့် ဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြဆုံးဖြတ်သတ်မှတ်ရမည်။ **(အပိုဒ် ၁၄)**

(ဈ)လုပ်ကွက်အဆိုပြုငွေအဖြစ် ကျပ် ၂၄၀ သိန်း(သိန်းနှစ်ရာ့လေးဆယ်တိတိ) ကို သဘောတူစာချုပ် မချုပ်ဆိုမီ ပေးသွင်းရမည်။ **(အပိုဒ်- ၁၈)**

(ည) ပူးတွဲစီမံခန့်ခွဲမှုကော်မတီတွင် အဖွဲ့ဝင် ၅ ဦးပါဝင်ပြီး အမှတ်(၁) သတ္တုတွင်းလုပ်ငန်း မှ ၃ ဦး နှင့် ကန်ထရိုက်တာ မှ အဖွဲ့ဝင်၂ ဦး ပါဝင်စေလျက် အမှတ်(၁) သတ္တုတွင်းလုပ်ငန်း မှ ဦးဆောင်ညွှန်ကြားရေးမှူးသည် ဥက္ကဋ္ဌ ဖြစ်ရမည်။ **(အပိုဒ် ၂၁- ၁ - က)**

(ဋ) လုပ်ငန်းသဘောတူစာချုပ် မချုပ်ဆိုမီ အာမခံစပေါ်ငွေအဖြစ် မြန်မာကျပ်သိန်း ၄၈၀ (ကျပ်သိန်းလေးရာ့ရှစ်ဆယ်တိတိ)ကို နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်၊ အမှတ်(၁) သတ္တုတွင်းလုပ်ငန်း ငွေစာရင်းအမှတ် CF 001074 သို့ ပေးသွင်းပြီး လုပ်ငန်းသဘောတူစာချုပ်သက်တမ်း တစ်လျှောက်ထားရှိ ရမည်။ **(အပိုဒ် ၂၃-၁)**

၁၀။ ကုမ္ပဏီအနေဖြင့်နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် အခွန်ဥပဒေများအတိုင်းပေးသွင်းရမည့် အခွန်များကိုလည်းကောင်း၊ သတ္တုတွင်းဦးစီးဌာနသို့ ပေးသွင်းရမည့် ပုံသေမြေငှားရမ်းခနှင့် ဓါတ်သတ္တုခွန် များကိုလည်းကောင်း၊ အမှတ်(၁)သတ္တုတွင်းလုပ်ငန်းသို့ ပေးသွင်းရမည့် ခွဲဝေမှုအချိုးများကိုလည်းကောင်း သတ်မှတ်ကာလအတွင်း အပြည့်အဝ မပျက်မကွက် ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ကချင်ပြည်နယ်အစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

ဆန်းလင်း အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် သံသတ္တုရိုင်းသန့်စင် အကြီးစား တူးဖော်ထုတ်လုပ်ခွင့် လျှောက်ထားသည့်လုပ်ကွက်သည် မြို့ပြစီမံကိန်းနှင့် ပြည်သူတို့၏ လူမှုစီးပွားကို ထိခိုက်နိုင်မှုမရှိခြင်း၊ ဒေသခံပြည်သူများ၏ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုခြင်း တို့ကြောင့် ပြည်နယ်အစိုးရအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(၇) စီမံကိန်းဧရိယာအနီးတွင် ကျေးရွာများရှိသဖြင့် ဒေသခံများ၏ သဘောထား ရယူဆောင်ရွက်ရမည်ဖြစ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**(ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ကုမ္ပဏီမှ သဘာဝပတ်ဝန်းကျင် ထိခိုက်မှု လျော့နည်းစေရေး (Environmental Impact Assessment)၊ လူမှုပတ်ဝန်းကျင်ထိခိုက်မှု လျော့နည်း စေရေးဆန်းစစ်ချက် (Social Impact Assessment)အစီရင်ခံစာကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ရရှိပြီး (၅)လအတွင်းတင်ပြသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သတ္တုတွင်း ပိတ်သိမ်း ရေးလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်အတွက် စီးပွားဖြစ်စတင်ထုတ်လုပ်သည့် နှစ် မှ စီမံကိန်းကာလပြီးဆုံးသည်အထိ နှစ်စဉ်ကျပ်ငွေ (၅) သန်းကို သီးသန့် ငွေစာရင်း ခေါင်းစဉ်ဖွင့်လှစ်၍ ထည့်ဝင်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။)**

၁၂။ ငွေကြေးအထောက်အထားအဖြစ် San Lin International Export and Import Co., Ltd. အမည်ဖြင့် ကမ္ဘောဇဘဏ် (လမ်းမတော်ကွဲဆည်ကန်ဘဏ်ခွဲ) ၌ (၂၅-၉-၂၀၁၄) နေ့စွဲရှိ လက်ကျန် ငွေကျပ် သန်း ၆၀ တင်ပြထားရာ သုံးစွဲရန် ငွေကျပ် (၉၆.၁၀) သန်း ၏ ၆၂.၄၃ % နှင့် နိုင်ငံခြားငွေ အဖြစ် MICB ဘဏ်ရှိ ငွေ လက်ကျန် US$ (၀.၃၈) သန်း တင်ပြထားရာ သုံးစွဲရန် နိုင်ငံခြား ငွေ US$ (၁.၉၉) သန်း ၏ ၁၉.၁% ရှိကြောင်း တင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပါကြောင်းနှင့် လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန် ဆောင်ရွက်မည်ဖြစ် ကြောင်း၊ ပြည်ပမှဝယ်ယူ တင်သွင်းမည့်ပစ္စည်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ စည်းကမ်း ချက်များအတိုင်း တင်သွင်းဆောင်ရွက်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၄။ CSR အတွက် နှစ်စဉ် Net Profit၏ ၂% သုံးစွဲမည်ဖြစ်ပြီး ကျေးရွာစာကြည့်တိုက်များ ထူထောင်ခြင်းအတွက် ၁၅%၊ ဆေးပေးခန်းများ ထူထောင်ခြင်းအတွက် ၂၅%၊ လမ်းတံတားများပြုပြင် ပေးခြင်း နှင့် ရေမြောင်းများပြုလုပ်ပေးခြင်းအတွက် ၂၀%၊ နေ့ကလေးထိန်းဌာန ဖွင့်လှစ်ပေးခြင်းနှင့် မူလတန်းကျောင်းများအား ပညာရေးထောက်ပံ့ငွေပေးခြင်းအတွက် ၂၀% ၊ လုပ်ကွက် ပတ်ဝန်းကျင် ကျေးရွာနှင့် လူနေရပ်ကွက် လျှပ်စစ်မီးရရှိရေးအတွက် ၂၀% ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က)အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၂၀ ရက်နေ့တွင် ကျင်းပ ပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၂၃/၂၀၁၄) ကြိမ်မြောက် အစည်းအဝေး

အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းကို သဘောတူ ဆုံးဖြတ်ခဲ့ ကြောင်း သတ္တုတွင်းဝန်ကြီးဌာနမှ တင်ပြထားပါသည်။

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ကချင်ပြည်နယ်အစိုးရအဖွဲ့၏ ထောက်ခံချက်အား (၂၁-၆-၂၀၁၅) ရက်စွဲ ဖြင့်လည်းကောင်း၊ လုနော့ဂျန်ကျေးရွာ အုပ်စုအုပ်ချုပ်ရေးမှူး၏ ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံချက်၊ ဒေသခံပြည်သူများ၏ ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံချက်များ ရရှိပြီးဖြစ်ကြောင်း တင်ပြထား ပါသည်။

(ဂ)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၅၁/၂၀၁၄ အရ သဘာဝအရင်းအမြစ် တူးဖော်ထုတ်လုပ်သည့်လုပ်ငန်းများမှာ အကောက်ခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်၊ ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ပေးရန်မလိုသော ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများတွင် ပါဝင်ပြီး မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅) နှစ်သာ ရရှိနိုင်မည် ဖြစ်ကြောင်း စိစစ်ရပါသည်။

(ဃ)San Lin International Export and Import Co., Ltd. သည် သတ္တုတွင်းဝန်ကြီးဌာန၏ ဓာတ်သတ္တု စမ်းသပ်တိုင်းတာရန် ခွင့်ပြုမိန့် နှင့် ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာန၏ ဓာတ်သတ္တုပါဝင်နှုန်း အတည်ပြုချက် တို့ကို တင်ပြထားပါသည်။

(င) အဆိုပြုလုပ်ငန်းနှင့်အလားတူ Htoo International Industrial Group Co., Ltd. မှ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် သံသတ္တုရိုင်း တူးဖော်ထုတ်လုပ် ခြင်းလုပ်ငန်းကို ကော်မရှင် ခွင့်ပြုမိန့်အမှတ် ၇၁၈/၂၀၀၉ (၃၀-၁၁-၂၀၀၉) ဖြင့် မြစ်ကြီးနားခရိုင်၊ ဝိုင်းမော်မြို့နယ်၊ ကန်တော်ယန်ဒေသရှိမြေ (၉၅၇၃)ဧကတွင် ဆောင်ရွက်လျက်ရှိပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၁) သတ္တုတွင်းလုပ်ငန်း နှင့် San Lin International Export and Import Co., Ltd.. တို့မှ ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့် ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ ဖိမော်ကျေးရွာအုပ်စု၊ လုနော့ဂျန် လုပ်ကွက်ရှိ မြေ ၁၉၈ ဧက (၀.၈၀၁၃ စတုရန်းကီလိုမီတာ) တွင် သံသတ္တုသန့်စင်အကြီးစား တူးဖော်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

ကချင်ပြည်နယ်

M4-365
24.6.2015

စာအမှတ်၊ ၄/၇-၂၈(၄၂၁)/အစိုးရအဖွဲ့ (ကချင်)

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ၊ ဇွန်လ ၂၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊သစ္စာလမ်း
ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ (၁)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆-၁-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက-၅(သ)/၀၀၃/၂၀၁၅(၀၀၆)

(၂)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန(ချီဖွေမြို့)၏ (၉-၂-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၅/၁-၈/ဦး ၅ (၈၉)

(၃)ကချင်ပြည်နယ်အစိုးရအဖွဲ့၏ (၁၇-၂-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၄/၇-၂၈ (၂၁၂)/အစိုးရအဖွဲ့(ကချင်)

(၄)ဆန်းလင်းအင်တာနေရှင်နယ် အိတ်စ်ပို့အင်န်ပို့ ကုမ္ပဏီလီမိတက်၏ (၃- ၄-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ၀၂၉/ငြိမ်း-ဆလ(သံ/ရင်းနှီး)/၂၀၁၅

(၅)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန (ချီဖွေမြို့)၏ (၁၉-၅-၂၀၁၅) ရက်စွဲပါစာအမှတ်၊၅/၁-၈/ဦး၅(၃၃၇)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ ဖီမော်ကျေးရွာအုပ်စု၊ လုနော့ဂျန်ကျေးရွာအနီးရှိ မြေဧရိယာ(၁၉၈)ဧကပေါ်တွင် ဆန်းလင်းအင်တာနေရှင်နယ် အိတ်စ်ပို့အန်အင်ပို့ကုမ္ပဏီလီမိတက်မှ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် သံသတ္တုရိုင်းတူးဖော်လုပ်ကိုင်ခွင့်ရရှိရေးအတွက် ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် သဘောထားထောက်ခံချက်ပေးနိုင်ရန် အောက်ဖော်ပြပါအချက်များကို ရည်ညွှန်း(၁)ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာ ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့်(သို့)လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ။

(ခ) ပြည်သူတို့၏ လူမှုစီးပွားကို ထိခိုက်နိုင်မှုရှိ/မရှိ။

(ဂ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/မဖြစ်။

(ဃ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ညှိနှိုင်းအကြောင်းကြားလာမှုအရ အထက်ဖော်ပြပါ အချက်(၄)ချက်ကို သတ်မှတ်ချက်များနှင့် ကိုက်ညီမှုရှိ/မရှိ ချီဖွေမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီး ဌာနသို့ ကွင်းဆင်းစိစစ်တင်ပြစေရန် အကြောင်းကြားခဲ့မှုအပေါ် မြို့နယ်အုပ်ချုပ်ရေးမှူး ဦးဆောင်သော အဖွဲ့ဖြင့် မြို့နယ်မြေစာရင်းမှူး၊ မြို့နယ်စိုက်ပျိုးရေးဦးစီးမှူး၊ မြို့နယ်သစ်တောဦးစီးဌာန၊ မြို့နယ် သတ္တုတွင်းတာဝန်ခံတို့ ပါဝင်သောအဖွဲ့စုံဖြင့် (၉-၂-၂၀၁၅) ရက်နေ့တွင် ကွင်းဆင်းစစ်ဆေးခဲ့ပြီး စစ်ဆေးတွေ့ရှိချက် အခြေအနေများကို အပိုဒ်(က)(ခ)(ဂ)(ဃ)တို့ကို ရည်ညွှန်း(၂)ပါစာဖြင့်တင်ပြ လာမှုအပေါ် ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် သဘောထားမှတ်ချက်ကို (၁၇-၂-၂၀၁၅) ရက်နေ့တွင် ရည်ညွှန်း(၃)ပါစာဖြင့် သဘောထားပေးပို့ခဲ့ပါသည်။

၃။ ဆန်းလင်းအင်တာနေရှင်နယ် အိတ်စ်ပို့အန်အင်ပို့ကုမ္ပဏီလီမိတက်မှ သံသတ္တုရိုင်းသန့်စင် အကြီးစားတူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်းကို လုပ်ကိုင်ခွင့်ရရှိရေးအတွက် သဘောထားမှတ်ချက်ပေးပို့ ခဲ့ရာတွင် ရည်ညွှန်း(၃)၊အပိုဒ်(ခ)ပါလျော်ကြေးပေးရန် တောင်သူများအား မြေယာလျော်ကြေးပေးပါက ပြည်သူတို့၏ လူမှုစီးပွားကိုထိခိုက်နိုင်မှုမရှိကြောင်း တင်ပြခဲ့မှုကြောင့် စာချုပ်ချုပ်ဆိုရန်ကြန့်ကြာ နေမှုအပေါ် သဘောထားမှတ်ချက်ပြန်လည် ပြင်ဆင်ပေးနိုင်ရေးအတွက် ဆန်းလင်းအင်တာနေရှင်နယ် အိတ်စ်ပို့အင်န်ပို့ကုမ္ပဏီမှရည်ညွှန်း(၄)ပါ စာဖြင့်တင်ပြလာမှုအပေါ် ရည်ညွှန်း(၃) အမှတ်စဉ်(ဃ)ပါ အချက်နှင့်ပတ်သက်၍ ဆောင်ရွက်ထားမှုနှင့် ဒေသခံများသဘောထားအခြေအနေကို စိစစ်တင်ပြစေရန် ချီဖွေမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနသို့ အကြောင်းကြားခဲ့ပါသည်။

၄။ ချီဖွေ မြို့နယ်၊ ဖီမော်ကျေးရွာ၊ လုနော့ဂျန်ကျေးရွာအနီးတွင် သံသတ္တုရိုင်းသန့်စင်အကြီးစား တူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်းကို မြို့နယ်အုပ်ချုပ်ရေးမှူးမှ လုတ်နော့ဂျန်ကျေးရွာမှ ရာအိမ်မှူး၊ရပ်မိ/ ရပ်ဖတို့ဖြင့် ကွင်းဆင်းစစ်ဆေးခဲ့ရာ စစ်ဆေးတွေ့ရှိမှုအခြေအနေကို ရည်ညွှန်း(၅)ပါစာဖြင့် အောက်ပါ အတိုင်းစစ်ဆေးတင်ပြလာခဲ့ပါသည်-

(က) **ဒေသခံများအနေဖြင့် ကျေးရွာအတွင်းသတ္တုကားများ ဖြတ်သန်းသွားရာတွင် ဖုန်များ ထူထပ်ခြင်းကြောင့် သက်ဆိုင်ရာကုမ္ပဏီမှ ကျေးရွာအတွင်းလမ်းအား ကွန်ကရစ်ခင်း ပေးခြင်း။** ဆန်းလင်းအင်တာနေရှင်နယ်ကုမ္ပဏီမှ သံသတ္တုရိုင်းအကြီးစား တူးဖော် ထုတ်လုပ်မှုအတွက် နိုင်ငံတော်နှင့် စာချုပ်ချုပ်ဆိုပြီးသည့် နေ့မှစ၍(၃)နှစ်အတွင်း ကွန်ကရစ်ခင်းပေးမည့်အကြောင်း ကတိပြုထားမှုအပေါ် ကျေးရွာနေပြည်သူများမှ လက်ခံသဘောတူခြင်း၊

(ခ) **လုတ်နော့ဂျန်ကျေးရွာအား ဆန်းလင်းကုမ္ပဏီမှ လျှပ်စစ်မီးအခမဲ့ပေးခြင်း။** (၂ - ၅- ၂၀၁၅)ရက်နေ့မှစတင်၍ လုတ်နော့ဂျန်ကျေးရွာရှိ အိမ်ခြေ(၄၀)သို့ အခမဲ့မီးပေးထားပြီး ဖြစ်ပါကြောင်းနှင့် ဒေသခံပြည်သူများ၏ လိုလားချက်များကို ကုမ္ပဏီမှဆောင်ရွက်ပေး သဖြင့်သံသတ္တုရိုင်းတူးဖော်ခြင်းကိုလက်ခံသဘောတူကြောင်းစိစစ်တင်ပြ လာပါသည်။

၅။ အဆိုပါစစ်ဆေးတင်ပြလာမှုများအား ကချင်ပြည်နယ်အစိုးရအဖွဲ့၏ (၁၁-၆-၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် လုပ်ငန်းညှိနှိုင်းအစည်းအဝေးအမှတ်စဉ်(၁၉/၂၀၁၅)ဖြင့် သဘောတူဆုံးဖြတ်ခဲ့ပြီးဖြစ်ပါသဖြင့် ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပေးပို့အပ်ပါသည်။

၂၃၁၆

ဝန်ကြီးချုပ်( ကိုယ်စား )
(ဇော်သိန်း၊ အတွင်းရေးမှူး)

မိတ္တူ-

ဝန်ကြီး၊သစ်တောနှင့်သတ္တုဝန်ကြီးဌာန၊ ကချင်ပြည်နယ်အစိုးရအဖွဲ့
ရုံးလက်ခံ
မျှောစာတွဲ

ပြည်နယ်အစိုးရအဖွဲ့
ကချင်ပြည်နယ်

စာအမှတ်၊၄/၇ -၂၈(၂၁၂)/အစိုးရအဖွဲ့(ကချင်)
ရက်စွဲ၊ ၂၀၁၅ခုနှစ်၊ ဖေဖော်ဝါရီလ    ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊သစ္စာလမ်း
ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (က)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆-၁-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက- ၅(သ)/၀၀၃/၂၀၁၅(၀၀၆)

(ခ)ချီဖွေမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ (၉-၂-၂၀၁၅)ရက်စွဲပါစာ အမှတ်၊၅/၁-၈/ဦး ၅(၈၉)

၁။ ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့အင်(န်)ပို့ကုမ္ပဏီလီမိတက်မှ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ ဖီမော်ကျေးရွာ၊ လုနော့ဂျန်ကျေးရွာအနီးတွင် သံသတ္တုသန့်စင်အကြီးစားတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်း၊ လုပ်ကွက်(၄)ကွက်၊ မြေဧရိယာ(၁၉၈)ဧကတွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့်လုပ်ကိုင်ခွင့်ရရှိရေးကို ပြည်ထောင်စုသတ္တုတွင်းဝန်ကြီးဌာနမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခဲ့မှုအပေါ် ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်ကိုပြန်ကြားပေးနိုင်ရန်နှင့် သတ်မှတ်စည်းကမ်းချက်များနှင့်အညီ ကိုက်ညီမှုရှိ/မရှိစိစစ်၍ ပြန်ကြားပေးနိုင်ရန် ရည်ညွှန်းစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ဆန်းလင်းအင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် သံသတ္တုရိုင်းသန့်စင် အကြီးစားတူးဖော်ထုတ်ခွင့် လျှောက်ထားသည့်လုပ်ကွက်သို့ ချီဖွေမြို့နယ်အုပ်ချုပ်ရေးမှူးဦးဆောင်သောအဖွဲ့ဖြင့် မြို့နယ်မြေစာရင်းဦးစီးမှူး၊ မြို့နယ်စိုက်ပျိုးရေးဦးစီးမှူး၊ မြို့နယ်သစ်တောဦးစီးဌာန၊ မြို့နယ်သတ္တုတွင်းတာဝန်ခံတို့ ပါဝင်သောအဖွဲ့စုံဖြင့် ကွင်းဆင်းစစ်ဆေးခဲ့ရာ အောက်ပါစစ်ဆေးတင်ပြလာခဲ့ပါသည်-

(က) သတ္တုတွင်းနှင့်သတ္တုသန့်စင်စက်ရုံသည် ချီဖွေမြို့မှ(၈၁)မိုင်နှင့်အနီးဆုံး လုတ်နော့ဂျန်ကျေးရွာနှင့်(၅)မိုင်ကွာဝေးသဖြင့် နောင်ပြုလုပ်မည့်(သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိခြင်း၊

(ခ) ဆန်းလင်းကုမ္ပဏီမှ လုတ်နော့ဂျန်ကျေးရွာမီးလင်းရေးအတွက် တရုတ်ယွမ်ငွေ ၆၇၂၀၀၀/-(ကျပ်သိန်းတစ်ရာခန့်) အကုန်အကျခံ၍ ဆောင်ရွက်ပေးထားကြောင်းတွေ့ရှိရပြီးကျေးရွာမှသတ္တုတွင်းအထိ လမ်းဖောက်လုပ်ရာတွင် မြေယာလျော်ကြေးတရုတ်ယွမ်ငွေ ၄၁၃၀၆၀၀/-(ကျပ်သိန်းခြောက်ရာခန့်) ပေးလျော်ထားကြောင်း တွေ့ရှိရပါသည်။ ပေးလျော်ရန်ကျန်ရှိနေသေးသည့် တောင်သူများအား မြေယာလျော်ကြေးပေးပါက ပြည်သူတို့၏လူမှုစီးပွားကို ထိခိုက်နိုင်မှုမရှိကြောင်း၊

(ဂ) သတ္တုသန့်စင်စက်ရုံတွင် လုပ်ကိုင်နေသော လုတ်နေ့ဂျန်ကျေးရွာ၊ ပိမ်ဟော်ကျေးရွာနှင့်မြစ်ကြီးနားမြို့မှ မြန်မာလုပ်သား(၂၀)ဦး ခန့်ထားကြောင်းတွေ့ရှိရပြီး လုတ်နေ့ဂျန်ရွာတွင် အလုပ်မလုပ်နိုင်သောအရွယ်ရောက်ပြီးသူ(၂၃၀)ဦးခန့် ရှိသဖြင့်ဒေသလူထုအတွက် အလုပ်အကိုင် (၉) ရာနိုင်နှုန်းခန့် အထောက်အကူရှိကြောင်း တွေ့ရှိရခြင်း၊

(ဃ) ဒေသခံများအနေဖြင့် ကျေးရွာတွင်းသတ္တုကားများ ဖြတ်သန်းသွားရာတွင် ဖုန်များ ထူထပ်ခြင်းတို့ကြောင့် ကုမ္ပဏီမှကျေးရွာအတွင်းလမ်းအား ကွန်ကရစ်ခင်းပေးခြင်း၊ ကျေးရွာအားကုမ္ပဏီမှ မီးအခမဲ့ပေးခြင်းတို့ကို ဆောင်ရွက်ပေးပါက လက်ခံနိုင်ခြင်း ရှိခြင်း၊

၃။ သို့ဖြစ်ပါ၍ ဆန်းလင်းအင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် သံသတ္တုရိုင်းသန့်စင် အကြီးစား တူးဖော်ထုတ်ခွင့် လျှောက်ထားသည့်လုပ်ကွက်သည် မြို့ပြစီမံကိန်းနှင့် ပြည်သူတို့၏လူမှုစီးပွားကို ထိခိုက်နိုင်မှုမရှိခြင်း၊ ဒေသခံပြည်သူများ၏ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုကိုအထောက်အကူပြုခြင်းတို့ကြောင့် ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါ ကြောင်း သဘောထားပေးပို့အပ်ပါသည်။

(လက်မှတ်) ၇/၂

ဝန်ကြီးချုပ်(ကိုယ်စား)
(ဇော်သိန်း၊ အတွင်းရေးမှူး)

မိတ္တူ-
ဝန်ကြီး၊ သစ်တောနှင့်သတ္တုဝန်ကြီးဌာန၊ ကချင်ပြည်နယ်အစိုးရအဖွဲ့
ရုံးလက်ခံ
မျှောစာတွဲ

နောက်ဆက်တွဲ(၁)

NPT_0563
26.1.2015

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၃၉၉ /၂၀၁၅)
ရက်စွဲ ၂၀၁၅ခုနှစ်၊ဇန်နဝါရီလ ၂၃ ရက်

M4-49
27/1/2015

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **<u>သဘောထားမှတ်ချက် ပြန်ကြားခြင်း</u>**

ရည်ညွှန်းချက်။ (၁)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၆-၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၅/(သ)/၀၀၃/၂၀၁၅(၀၀၇)
(၂)ဤပြည်ထောင်စုဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏ ၁၆-၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂/၂၂၀(ခ)(၆)/ (၃၈၂/၂၀၁၅)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့အင်(န်)ပို့ကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ ဖိမော်ကျေးရွာအုပ်စု၊ လူနော့ဂျန်ကျေးရွာအနီးရှိ လုပ်ကွက် (၄)ကွက် ၊ စုစုပေါင်းဧရိယာ (၁၉၈) ဧက (၀.၈၀၁၆ စတုရန်းကီလိုမီတာ)တွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ် Production Sharing Contract)ဖြင့် သံသတ္တုအကြီးစားတူးဖော်သန့်စင်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိခိုက်မှုရှိ/မရှိအပေါ် စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ထပ်မံပြန်ကြားအပ်ပါသည်။

၂။ အဆိုပြုတင်ပြလွှာတွင် အမှတ်(၁)သတ္တုတွင်းလုပ်ငန်းနှင့် ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့အင်(န်)ပို့ကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ ဖိမော်ကျေးရွာအုပ်စု၊ လူနော့ဂျန်ကျေးရွာအနီးရှိ လုပ်ကွက်(၄)ကွက်၊ စုစုပေါင်းဧရိယာ (၁၉၈)ဧကတွင် သံသတ္တုအကြီးစားတူးဖော်သန့်စင်ခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ သန်း(၂၄၀၀)ဖြစ်ကြောင်း၊ တစ်နှစ်လျှင် သံသတ္တုရိုင်း တန်(၆၃၀၀၀) တူးဖော်ပြီး သန့်စင်ပြီးသံသတ္တု (၂၅၀၀၀) တန်သန့်စင် ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ လျှပ်စစ်ဓာတ်အားအတွက် ၃၀ ကီလိုဗို့ မီးစက်ကို အသုံးပြုမည်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများသက်သာချောင်ချိရေးစီမံချက်၊ သတ္တုသိုက်တန်ချိန် ပမာဏစိစစ်ချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအနေဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ၊ ကျွမ်းကျင်ပညာရှင်များရေးသားသည့် EIA နှင့် SIA အစီရင်ခံစာများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေမှ ခွင့်ပြုမိန့်ရပြီး (၅) လအတွင်း တင်ပြသွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများနှင့် သတ္တုပိတ်သိမ်းရေးလုပ်ငန်းများတွင် အသုံးပြုရန်အတွက် နှစ်စဉ် သိန်း(၅၀)ကျပ်ကို စီးပွားဖြစ်ထုတ်လုပ်သည့်နေ့မှ စတင်၍ သီးသန့်ငွေစာရင်း ခေါင်းစဉ် ဖွင့်လှစ်၍ ထည့်ဝင်သွားမည်ဖြစ်ကြောင်း ၊ အမြတ်ငွေ၏ (၂%)အား

Corporate Social Responsibility-CSR အစီအစဉ်အတွက် ကျခံသုံးစွဲမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် ဆောင်ရွက်မည့်လုပ်ငန်းစီမံချက်တို့ကို ဖော်ပြထားပါသည်။

၃။ သတ္တုတွင်းဝန်ကြီးဌာနမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပေးပို့သည့်စာတွင် ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ (၂၃/၂၀၁၄)ကြိမ်မြောက်အစည်းအဝေးတွင် လုပ်ငန်းဆောင်ရွက်ရန် သဘောတူကြောင်းဖော်ပြချက်၊ ကချင်ပြည်နယ်အစိုးရအဖွဲ့မှ လုပ်ငန်းဆောင်ရွက်ရန် သဘောတူကြောင်း ထောက်ခံချက် ၊ ချီဖွေမြို့နယ် ၊ ဖိမော်ကျေးရွာအုပ်စု၊ ကျေးရွာအုပ်ချုပ်ရေးမှူးရုံး၏ ထောက်ခံချက်များကို ပူးတွဲဖော်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တွင် လုပ်ငန်းဆောင်ရွက်မည့် နေရာသည် သစ်တောကြိုးဝိုင်းအတွင်း ကျရောက်သော လုပ်ကွက်ဖြစ်ပါက ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ရန်၊ ဘဏ္ဍာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ပြန်ကြားစာတွင် စီမံကိန်းနှင့်ပတ်သက်၍ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် လူမှုအကျိုးစီးပွားအပေါ် သက်ရောက်မှု ရှိ-မရှိ သက်ဆိုင်ရာဌာနများ ၊ ဒေသခံများနှင့် ညှိနှိုင်းပြီးမှသာ စီမံကိန်းကို ဆောင်ရွက်သင့်ကြောင်း ဖော်ပြထားပါသည်။

၅။ စီမံကိန်းသည် ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ ဖိမော်ကျေးရွာအုပ်စု၊ လူနော့ဂျန်ကျေးရွာအနီးရှိ ဧရိယာ(၁၉၈)ဧကတွင် ဆောင်ရွက်မည်ဖြစ်၍ ဒေသခံကျေးရွာပြည်သူများ၏ လယ်ယာ ၊ ဥယျာဉ် နှင့် စားကျက်မြေများ ပါရှိနိုင်ခြင်း နှင့် ကျေးရွာဒေသခံများသည် အနီးရှိ သစ်တောအပေါ် မှီခိုမှုများရှိနိုင်ခြင်းတို့ကြောင့် လူမှုရေးဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်နိုင်ခြင်း၊ သတ္တုတူးဖော်ရန်အတွက် သစ်တောများခုတ်ထွင်ရှင်းလင်းခြင်းကြောင့် အပေါ်ယံမြေဆီလွှာ ပျက်စီးဆုံးရှုံးနိုင်ခြင်း၊ မူလတည်ရှိသည့် သစ်တောဂေဟစနစ်နှင့် ဝန်ဆောင်မှုများ ဆုံးရှုံးနိုင်ခြင်းနှင့် သစ်တောအတန်းအစား ကျဆင်းစေခြင်း ၊ သစ်တောအပေါ် မှီခိုနေသည့် သားငှက်တိရစ္ဆာန်များ၏ နေရင်းဒေသများ ပျက်စီးပျောက်ကွယ်နိုင်ခြင်း၊ မြေတူးစက်များ၊ မီးစက်များ၊ လွန်တူးစက်များ အသုံးပြုမည်ဖြစ်သဖြင့် အဆိုပါပစ္စည်းများ သယ်ယူပို့ဆောင်ရေးအတွက် လမ်းများဖောက်လုပ်ခြင်း ၊ စက်ပစ္စည်းများ နေရာချထားရန် နှင့် ဝန်ထမ်းအိမ်ယာဆောက်လုပ် ခြင်း၊ မြေတူးခြင်း၊ မိုင်းခွဲခြင်း လုပ်ငန်းများကြောင့် အသံဆူညံမှုများဖြစ်ပေါ်ခြင်း၊ စက်သုံးဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ပါသည်။

၆။ သို့ဖြစ်၍ ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို အင်(န်)ပို့ကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ် ၊ ဖိမော်ကျေးရွာအုပ်စု ၊ လူနော့ဂျန်ကျေးရွာအနီးရှိ လုပ်ကွက် (၄)ကွက် ၊ စုစုပေါင်းဧရိယာ (၁၉၈) ဧက (၀.၈၀၁၆ စတုရန်းကီလိုမီတာ)တွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ် Production Sharing Contract)ဖြင့် သံသတ္တုအကြီးစားတူးဖော်သန့်စင်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ကို တင်ပြအပ်ပါသည်-

(က) ဖော်ပြပါ စီမံကိန်းဆောင်ရွက်မည့် နေရာများသည် သစ်တောစိုက်ခင်း၊ သစ်တောကြိုးဝိုင်း၊ ကြိုးပြင်ကာကွယ်တောနှင့် သဘာဝနယ်မြေအတွင်း ကျရောက်ပါက မြေနေရာနှင့်စပ်လျဉ်း၍ သစ်တောဦးစီးဌာန၏သဘောထား ရယူဆောင်ရွက်ရန်၊

(ခ) တူးဖော်ရေး လုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့်လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(ဂ) သတ္တုတူးဖော်ရေး ထုတ်လုပ်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် သတ္တုတွင်းဥပဒေ၊ မြန်မာ့သတ္တုတွင်းနည်းဥပဒေတို့နှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု ဆန်းစစ်ခြင်း ( Environmental and Social Impact Assessment – ESIA ) ဆောင်ရွက်ရန်၊

(င) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ သတ္တုတွင်းပိတ်သိမ်းမည့်အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan – EMP ) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(စ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေနှင့် စံသတ်မှတ်ချက်များ၊ ESIAနှင့် EMPတို့တွင် ဖော်ပြပါရှိသည့်အချက်များအား လိုက်နာမည်ဖြစ်ကြောင်း စီမံကိန်းအဆိုပြုသူ၏ ကတိခံဝန်ချက်ကို ESIA အစီရင်ခံစာတွင် ထည့်သွင်းဖော်ပြရန်၊

(ဆ) စီမံကိန်းဧရိယာအနီးတွင် ကျေးရွာများရှိသဖြင့် ဒေသခံ ကျေးရွာသူ/သားများ၏ သဘောထားများရယူဆောင်ရွက်ရန်၊

(signature) ၂၃/၁

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၁၈.......... / ၂၀၀၉ ။ ၂၀၀၉ ခုနှစ်၊ နိုဝင်ဘာ လ ၃၀ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဦးဆောင်ညွှန်ကြားရေးမှူး

(ခ) အဘအမည် ........ အမှတ်(၃)သတ္တုတွင်းလုပ်ငန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ........

(ဃ) နေရပ်လိပ်စာ ........ ရုံးအမှတ် (၁၉)၊သတ္တုတွင်းဝန်ကြီးဌာန၊နေပြည်တော်

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ........ ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industrial Group Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် သံသတ္တုရိုင်းများ တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ........ ကချင်ပြည်နယ်၊မြစ်ကြီးနားခရိုင်၊ ဝိုင်းမော်မြို့နယ်၊ ကန်တော်ယန်ဒေသ။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ........ ၂၀၀၀.၀၀(သန်း) (အမေရိကန်ဒေါ်လာ (၂.၆၂)သန်းအပါအဝင် စုစုပေါင်းကျပ်သန်းနှစ်ထောင်တိတိ)

၇၁၈

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၂၅ /၂၀၀၉(မနသ)
ရန်ကုန်မြို့ ၊ ၁၃၇၁ ခုနှစ်၊ နတ်တော်လဆန်း ၁၄ ရက်
(၂၀၀၉ ခုနှစ် ၊ နိုဝင်ဘာ လ ၃၀ ရက်)

၁။ သတ္တုတွင်း ဝန်ကြီးဌာန ၊ အမှတ်(၃) သတ္တုတွင်းလုပ်ငန်း နှင့် ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industrial Group Co., Ltd.) တို့ သည် ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ဝိုင်းမော်မြို့နယ်၊ ကန်တော်ယန်ဒေသရှိ မြေ (၉၅၇၃.၂၄)ဧကတွင် ထုတ်လုပ်မှုအပေါ် ခွဲဝေ ခံစားသည့်စနစ်ဖြင့် သံသတ္တုရိုင်းများ တူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၀/၂၀၀၈) (၃-၁၀-၂၀၀၈) နှင့် (၂၉/၂၀၀၉) (၇-၈-၂၀၀၉) အစည်းအဝေးများသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်အစည်းအဝေးများမှ မူအားဖြင့် သဘောတူညီခဲ့ပြီး ကုန်သွယ်မှု မူဝါဒကောင်စီ၏(၃၆/၂၀၀၈) (၃၁-၁၀-၂၀၀၈) နှင့် (၃၄/၂၀၀၉) (၇-၁၀-၂၀၀၉) အစည်းအဝေး များသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးများမှ သဘောတူညီချက် အရ (၁၉-၁၁-၂၀၀၉) နေ့တွင် ကျင်းပ ပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၄/၂၀၀၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အမှတ်(၃) သတ္တုတွင်း လုပ်ငန်းနှင့် ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industrial Group Co., Ltd.) တို့အား ထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် သံသတ္တုရိုင်း တူးဖော် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၇၁၈/ ၂၀၀၉ကို ထုတ်ပေးလိုက်သည်။

၂။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industrial Group Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်းစီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုသည်။ ဥပဒေပုဒ်မ ၁၃ မှ လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ခံစားလိုပါက ဤကော်မရှင်သို့ လျှောက်ထားနိုင် သည်။

၃။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industrial Group Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြု လွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industrial Group Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၃) သတ္တုတွင်း လုပ်ငန်းနှင့် ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industrial Group Co., Ltd.) တို့ သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီး ဖြစ်သော သံသတ္တုရိုင်း ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် လုပ်ငန်း သဘောတူ စာချုပ်ပါ စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ကြရမည်။ အခြားအဖိုးတန် သတ္တုများ ဖြစ်သည့် ရွှေ၊ စိန်၊ ကျောက် တို့ထွက်ရှိပါက နိုင်ငံတော်သို့ ပြန်လည်အပ်နှံရမည်။

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၃) သတ္တုတွင်း လုပ်ငန်းနှင့် ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industrial Group Co., Ltd.) တို့၏ သံသတ္တုရိုင်း ထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် လုပ်ငန်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်း သဘောတူ စာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၇။ သံသတ္တုရိုင်း တူးဖော် ထုတ်လုပ် ခွင့်ပြုသည့်ကာလမှာ စာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှ စ၍ (၁၀)နှစ် ဖြစ်ပြီး နောက်ထပ် သက်တမ်းတိုးမြှင့်ခွင့် အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ တဆင့် အထက်အဖွဲ့အစည်း၏ အတည်ပြုချက်ကို ရယူရမည်။

၈။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industrial Group Co., Ltd.) သည် လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက် ဧရိယာကို နိုင်ငံတော်အစိုးရမှ စီမံကိန်းတစ်ခုခု အလို့ငှာ အသုံးပြုရန် လိုအပ်ခဲ့လျှင် ကန်ထရိုက်တာ ဖြစ်သူ(ကုမ္ပဏီ)က မိမိ လက်ဝယ် ရယူထားသော လုပ်ကွက်ကို အစိုးရသို့ ပြန်လည်အပ်နှံရမည် ဖြစ်ပြီး ၊ သင့်လျော်သော သတ္တုလုပ်ကွက်ကို ကန်ထရိုက်တာ (ကုမ္ပဏီ)နစ်နာမှု မရှိစေရန် နှစ်ဦးနှစ်ဘက် ညှိနှိုင်း ဆောင်ရွက် ရမည်။

၉။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industrial Group Co., Ltd.) သည် အဆိုပြု လုပ်ငန်းအတွက် စာချုပ်လက်မှတ်ရေးထိုးမှု ဆုငွေ (Signature Bonus) ကျပ် (၁၀.၀၀)သိန်း (ကျပ်တစ်ဆယ်သိန်းတိတိ) ကို သဘောတူ စာချုပ် လက်မှတ် ရေးထိုးသည့် နေ့တွင် အမှတ်(၃) သတ္တုတွင်း လုပ်ငန်းသို့ ပေးသွင်းရမည်။

၁၀။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industrial Group Co., Ltd.) သည် ဘဏ်အာမခံကြေး အဖြစ် ကျပ်(၂၀.၀၀)သိန်း (ကျပ် သိန်း နှစ်ဆယ် တိတိ) ကို စာချုပ် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း (၃၀)အတွင်း နိုင်ငံတော်ပိုင် မြန်မာ့ စီးပွားရေးဘဏ်တွင် အမှတ်(၃)သတ္တုတွင်း လုပ်ငန်း အမည်ဖြင့် စာချုပ်သက်တမ်း တစ်လျှောက် ထားရှိ ရမည်။

၁၂။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industrial Group Co., Ltd.) မှ ပုံသေ မြေငှားရမ်းခ( Dead Rent ) အဖြစ် တစ်နှစ်လျှင် တစ်စတုရန်း ကီလိုမီတာ ကျပ်(၃၀၀၀)(ကျပ် သုံးထောင် တိတိ) နှုန်းဖြင့် သတ္တုတွင်း ဝန်ကြီး ဌာန၊ သတ္တုတွင်း ဦးစီးဌာနသို့ ပေးဆောင်ရမည်။

၁၃။ ထုတ်လုပ်ရရှိသော သံသတ္တုရိုင်း စုစုပေါင်း၏ (၄) ရာခိုင်နှုန်းကို ဓါတ်သတ္တုခွန် အဖြစ် နိုင်ငံတော် သို့ ပေးသွင်းပြီး ကျန် သံသတ္တုရိုင်း (၉၆) ရာခိုင်နှုန်းကို အောက်ပါအတိုင်း ခွဲဝေ ခံစား ရမည် -

| | |
|---|---|
| - အမှတ်(၃) သတ္တုတွင်းလုပ်ငန်း | ၃၀ ရာခိုင်နှုန်း |
| - ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် | ၇၀ ရာခိုင်နှုန်း |

၁၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက် ရမည်။

၁၅။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industrial Group Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထား ရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

ကချင်ပြည်နယ်အထူးဒေသ (၁)
ဆန်းလင်း အင်တာနေရှင်နယ် အိတ်စပို့အန် အင်ပို့ကုမ္ပဏီလီမိတက်
ရုံးခန်း – တိုက် (၃၈၇)၊ အခန်း (၁၅/၂၇)၊ ရွှေဘုံသာလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့၊ ဖုန်း – ၂၅၄၇၇၅၊ ၀၉ - ၄၉၂၈၀၁၁၆၁၊ ဖက်စ် – ၂၅၄၀၆၇
မြစ်ကြီးနားရုံးခွဲ – ၅၁၊ ပြည်ထောင်စုလမ်း၊ မြို့သစ်ကြီးရပ်ကွက်၊ မြစ်ကြီးနားမြို့၊ ကချင်ပြည်နယ်၊ ဖုန်း ၀၇၄ – ၂၀၉၄၂ ဖက်စ် – ၀၇၄ – ၂၃၂၉၀



၉။ အရေးပေါ်လိုအပ်ငွေများအတွက် ထုတ်ချေးငွေများကို အတိုးမဲ့ (သို့မဟုတ်) အတိုးနှုန်းနည်းနည်းဖြင့် ထုတ်ချေးပေးခြင်း၊

၁၀။ ဆုကြေးငွေများနှင့် အပိုဆောင်းငွေများ ထုတ်ပေးခြင်း၊

၁၁။ ကျန်းမာရေးအတွက် အားကစားကွင်းများ ဆောက်လုပ်ပေးခြင်းနှင့် လေ့ကျင့်နိုင်အောင် လိုအပ်သောအားကစားပစ္စည်းများ စီစဉ်ဆောင်ရွက်ပေးခြင်းနှင့် စာကြည့်တိုက်များဆောက်လုပ်၍ ဗဟုသုတရရှိစေမည့် သတင်းစာ၊ စာစောင်နှင့် မဂ္ဂဇင်းများထားရှိပေးခြင်း

၁၂။ သန့်စင်ခန်းများကို အမျိုးသား၊ အမျိုးသမီး သီးခြားခွဲထားပေးပြီး လုံလောက်စွာ ဆောက်လုပ်ပေးခြင်းအပြင် သန့်ရှင်းစေရေးအတွက် လိုအပ်သောရေလုံလောက်စွာ ရရှိအောင်ဆောင်ရွက်ပေးခြင်း၊

၁၃။ ဝန်ထမ်းများအား လုပ်ငန်းခွင်အကွာအဝေးအရ လိုအပ်ပါက ရုံးတက်၊ ရုံးဆင်းချိန်တွင် Ferry ဖြင့်ကြိုပို့လုပ်ပေးခြင်း၊

၁၄။ တစ်လတစ်ကြိမ်ဝန်ထမ်းများ တွေ့ဆုံဆွေးနွေးဆန္ဒဖော်ထုတ်ပွဲကျင်းပပေး၍ လိုအပ်ချက်များ ဖြည့်ဆည်းဆောင်ရွက်ပေးခြင်း၊

၁၅။ လွတ်လပ်ရေးနေ့နှင့် ပြည်ထောင်စုနေ့များတွင် အလံတင်အခမ်းအနားကျင်းပပြီး အားကစားပြိုင်ပွဲများနှင့် ပျော်ပွဲရွှင်ပွဲများကျင်းပပေးခြင်း၊

မြင့်ဦး
အုပ်ချုပ်မှုဒါရိုက်တာ
ဆန်းလင်းအင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်

ဆန်းလင်းအင်တာနေရှင်နယ်အိတ်(စ်)ပို့အင်(န်)အင်ပို့ကုမ္ပဏီလီမိတက်
(သံသတ္တုသန့်စင်အကြီးစားတူးဖော်ထုတ်လုပ်မှုလုပ်ငန်း)

ကချင်ပြည်နယ်အထူးဒေသ (၁)

**ဆန်းလင်း** အင်တာနေရှင်နယ်အိတ်စပို့အန် အင်ပို့ကုမ္ပဏီလီမိတက်

ရုံးခန်း - တိုက် (၃၈၇)၊ အခန်း (၁၅/၂၇)၊ ရွှေဘုံသာလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ ဖုန်း - ၂၅၄၇၇၅၊ ၀၉-၄၉၂၈၁၁၆၁၊ ဖက်စ် - ၂၅၄၀၆၇

မြစ်ကြီးနားရုံးခွဲ - ၅၁၊ ပြည်ထောင်စုလမ်း၊ မြို့သစ်ကြီးရပ်ကွက်၊ မြစ်ကြီးနားမြို့၊ ကချင်ပြည်နယ်။ ဖုန်း - ၀၇၄ - ၂၀၉၄၂၊ ဖက်စ် - ၀၇၄ - ၂၃၂၉၀

## ဆန်းလင်းအင်တာနေရှင်နယ်အိတ်(စ်)ပို့အင်(န်)အင်ပို့ကုမ္ပဏီလီမိတက် သံသတ္တုသန့်စင်အကြီးစားတူးဖော်ထုတ်လုပ်မှုလုပ်ငန်း သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေးအတွက် ဆောင်ရွက်သွားမည့်လုပ်ငန်းစီမံချက်

**နိဒါန်း**

ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ ဖီမော်ကျေးရွာအုပ်စု၊ လုနေ့ဂျန်ကျေးရွာအနီးရှိ သံသတ္တုရိုင်းလုပ်ကွက်တွင် သံသတ္တုသန့်စင် အကြီးစားတူးဖေါ်ထုတ်လုပ်၍ ပြည်ပသို့ တင်ပို့ရောင်းချရန်အတွက် ဤစီမံကိန်းကို အကောင်အထည်ဖော် ဆောင်ရွက်ရခြင်းဖြစ်ပါသည်။

**ရည်ရွယ်ချက်**

ဤလုပ်ငန်းစီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လူမှုဘဝဝန်းကျင်နှင့် သဘာဝပတ်ဝန်းကျင် လေထု၊ မြေထု၊ ရေထုများထိခိုက်မှုမရှိအောင် ဆောင်ရွက်သွားနိုင်ရန် လိုအပ်သောအစီအမံများချမှတ်ဆောင်ရွက်သွားရန် အတွက်ဖြစ်ပါသည်။

**လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်**

ယခုစီမံကိန်းသည် သတ္တုတူးဖော်ခြင်း လုပ်ငန်းဖြစ်သဖြင့် သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိအောင် အောက်ပါအတိုင်းစနစ်တကျ၊ စီစစ်ကြီးကြပ်ဆောင်ရွက်သွားပါမည်။

(၁) သတ္တုတူးဖော်သည့်အခါ မြေတူးစက်များကြောင့် မြေမှုန့်များ ပတ်ဝန်းကျင်နေပြည်သူများထိခိုက်မှုမရှိအောင် ရေများအဆက်မပြတ်ပက်ဖျန်း၍ လုပ်ငန်းကိုဆောင်ရွက်သွားပါမည်။

(၂) တည်ရှိပြီးရေနုတ်မြောင်းနှင့် မြစ်ချောင်းများအား ရေစီးရေလာကောင်းမွန်ရေးနှင့် သဘာဝအတိုင်း ဆက်လက်စီးဆင်းနိုင်ရန် ကြီးကြပ်ဆောင်ရွက်သွားပါမည်။

(၃) သတ္တုတူးဖော်ထုတ်လုပ်မှု မလွတ်ကင်းသည့်ဧရိယာရှိ အပင်များမှအပ လက်ရှိပေါက်ရောက် နေသည့် အရိပ်ရအပင်ကြီးများကို သဘာဝအနေအထားမပျက် ထားရှိနိုင်ရေး ကြီးကြပ်ဆောင်ရွက်သွားပါမည်။

(၄) သတ္တုတူးဖော်ပြီးမြေကွက်များတွင်လည်း ပြန်လည်မြေဖို့၍ အဖိုးတန်သစ်ပင်ကြီးများကို အလျှင်အမြန် ပြန်လည်စိုက်ပျိုးကာ မူလသဘာဝအတိုင်းဖြစ်အောင် ဆောင်ရွက်သွားပါမည်။

(၅) ဖောက်လုပ်မည့်လမ်းများကိုလည်း အရည်အသွေးအဆင့်မီလမ်းများအဖြစ် ဖောက်လုပ်မည်ဖြစ်ပြီး ရေမြောင်းများစနစ်တကျဖော်ထုတ်ပြီး သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိအောင်စနစ်တကျဆောင်ရွက်သွားပါမည်။

ကချင်ပြည်နယ်အထူးဒေသ (၁)

**ဆန်းလင်း** အင်တာနေရှင်နယ်အိတ်စပို့အန် အင်ပို့ကုမ္ပဏီလီမိတက်

ရုံးခန်း - တိုက် (၃၈၇)၊ အခန်း (၁၅/၂၇)၊ ရွှေဘုံသာလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ ဖုန်း - ၂၅၄၇၇၅၊ ၀၉-၄၉၂၈၀၁၀၆၁၊ ဖက်စ် - ၂၅၄၀၆၇

မြစ်ကြီးနားရုံးခွဲ - ၅၁၊ ပြည်ထောင်စုလမ်း၊ မြို့သစ်ကြီးရပ်ကွက်၊ မြစ်ကြီးနားမြို့၊ ကချင်ပြည်နယ်။ ဖုန်း - ၀၇၄ - ၂၉၉၄၂၊ ဖက်စ် - ၀၇၄ - ၂၃၂၉၀



(၆) စွန့်ပစ်မြေများကိုလည်း လယ်ယာမြေများနှင့်ကင်းလွတ်ပြီး သဘာဝရေစီးရေလာ မြစ်၊ ချောင်းများကိုလည်း မထိခိုက်အောင် စနစ်တကျ မိုင်းဒီဇိုင်းများရေးဆွဲ၍ စွန့်ပစ်သွားပါမည်။

(၇) ဓါတ်ဆေးများသုံးစွဲခြင်းမရှိသဖြင့် သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးယုတ်လျော့မှု ရှိမည်မဟုတ်ပါ။

(၈) လုပ်ငန်းဆောင်ရွက်ရာတွင် လူမှုဘဝဝန်းကျင်နှင့်သဘာဝပတ်ဝန်းကျင် အခြေအနေများ ထိခိုက်ပျက်စီးယုတ်လျော့မှုမရှိစေရန်အတွက် နိုင်ငံတကာအဆင့်မီ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများ ဆောင်ရွက်နေသည့်ပြည်တွင်း၊ ပြည်ပ ပညာရှင်များထံမှ အကြံဉာဏ်နှင့်နည်းပညာများ ရယူဆောင်ရွက်သွားပါမည်။

(၉) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများနှင့် သတ္တုတွင်းပိတ်သိမ်းရေးလုပ်ငန်းများဆောင်ရွက်နိုင်ရန် နှစ်စဉ်ကျပ်သိန်း(၅၀)ကို စီးပွားဖြစ် ထုတ်လုပ်မှုစတင်သည့်နှစ်မှ စတင်၍ နှစ်စဉ်ရန်ပုံငွေများ သီးခြားထည့်ဝင်သွားပါမည်။

(၁၀) Coporate Social Responsibility လုပ်ငန်းများ ဆောင်ရွက်နိုင်ရန် နှစ်စဉ်ရရှိသည့် အသားတင်အမြတ်ငွေအပေါ် ၂% နှင့်ညီမျှသောငွေကိုသုံးစွဲရန် ရန်ပုံငွေလျာထားသွားမည်ဖြစ်ပါသည်။

__နိဂုံး__

ယခုဆောင်ရွက်မည့်စီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လူမှုဘဝဝန်းကျင်နှင့် သဘာဝပတ်ဝန်းကျင်များ ထိခိုက်ပျက်စီးယုတ်လျော့မှုမရှိအောင် စနစ်တကျကြီးကြပ် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းနှင့် ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်များနှင့် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များအတိုင်း အတိအကျ လိုက်နာကျင့်သုံး ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံဂတိပြု တင်ပြအပ်ပါသည်။

မြင့်ဦး
အုပ်ချုပ်မှုဒါရိုက်တာ
ဆန်းလင်းအင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်

ဆန်းလင်းအင်တာနေရှင်နယ်အိတ်(စ်)ပို့အင်(န်)အင်ပို့ကုမ္ပဏီလီမိတက်
(သံသတ္တုသန့်စင်အကြီးစားတူးဖေါ်ထုတ်လုပ်မှုလုပ်ငန်း)

လက်ခံရရှိ

မှတ်ပုံတင်အမှတ် ..........

ရက်စွဲ .......... ၈ ၄ ၂၀၁၄

အချိန် .......... ၁၁ ၃၀

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

**ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာန**

နေပြည်တော်

စာအမှတ်၊ ၂၁၁၁/၁၁၄၄ ဘစမ/၂၀၁၄

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဧပြီလ ၇ ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး

အမှတ်(၁)သတ္တုတွင်းလုပ်ငန်း

အကြောင်းအရာ။ **သတ္တုသိုက်တန်ချိန်ပမာဏ စိစစ်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ အမှတ်(၁)သတ္တုတွင်းလုပ်ငန်း၏ ၃၁.၃.၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၁၁၃၆ / သတလ-၁ / ဆလ (ဝယ်) / ၂၀၁၄-၁၅

၁။ ကချင်ပြည်နယ် ချီဖွေမြို့နယ် ဖီမော်ကျေးရွာအုပ်စု လုနော့ဂျန်ကျေးရွာဒေသ (မပညာ- 92 K / 9- လုပ်ကွက်(၁) 365178, 369178, 369172, 365172, လုပ်ကွက်(၄) 358182, 364182, 364178, 358178) ရည်ညွှန်းလုပ်ကွက် ၂ ကွက်တွင် သံသတ္တုထုတ်လုပ်ခွင့်ပြုနိုင်ပါရန် ဆန်းလင်းအင်တာနေရှင်နယ်အိတ်(စ်)ပို့ အင်(န်)အင်ပို့ကုမ္ပဏီလီမိတက်မှ တင်ပြလာသည့် စမ်းသပ်တိုင်းတာရေး အစီရင်ခံစာအား ဤဦးစီးဌာန၏ ကျွမ်းကျင်မှု ကော်မတီမှ စိစစ်ခဲ့ပါသည်။

၂။ ကုမ္ပဏီ၏ အစီရင်ခံစာ၌ လုပ်ကွက်ဒေသတွင် Granite porphyry ကျောက်များ၊ Biotite ၊ Hornblende granite ကျောက်များနှင့် Diorite dyke များ အဓိကတွေ့ရှိရကြောင်း၊ သတ္တုဖြစ်ထွန်းမှု အနေဖြင့် Cretaceous သက်တမ်း Biotite granite အတွင်း Diorite dyke များ တိုးဝင်မှုနှင့်အတူ Magnetite ကို Disseminated ore အဖြစ် တွေ့ရှိရကြောင်း၊ အဓိကသတ္တုရိုင်းထွင်းထွက်မှာ Magnetite ဖြစ်ပြီး Hematite ၊ Limonite ၊ Pyrite ၊ Chalcopyrite ၊ Malachite တို့ကို Oxidized zone အတွင်း တွေ့ရှိရကြောင်း ဘူမိဗေဒအား ရှင်းလင်းတင်ပြထားပါသည်။

၃။ ကုမ္ပဏီသည် လုပ်ကွက်အတွင်း မြေပြင်ကွင်းဆင်းတိုင်းတာရေးလုပ်ငန်းများ ဆောင်ရွက်ခဲ့ပြီး ၁၀ ပေခြား မြေပြင်နိမ့်မြင့်ပြမြေပုံရေးဆွဲထားခြင်း၊ လုပ်ကွက်(၁)တွင် Adit တူးဖော်၍လည်းကောင်း၊ လုပ်ကွက်(၄)တွင် Open cut တူးဖော်၍လည်းကောင်း၊ နမူနာများ ရယူဓာတ်ခွဲစမ်းသပ်ထားခြင်း၊ တန်ချိန်ပမာဏတွက်ချက် ရာတွင် လုပ်ကွက်များအတွင်း Adit နှင့် Open cut တူးဖော်စမ်းသပ်တွေ့ရှိမှုအရ သတ္တုရိုင်းဇုန်၏

Length၊ Width နှင့် Depth တို့ ရယူကာ တန်ချိန်ပမာဏကို တွက်ချက်တင်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ ဤဦးစီးဌာနသည် မြေပြင်ကွင်းဆင်းစစ်ဆေးဆောင်ရွက်နိုင်ခြင်း မရှိသော်လည်း ကုမ္ပဏီအနေဖြင့် မြေပြင်နိမ့်မြင့်ပြမြေပုံရေးဆွဲထားခြင်း၊ Adit နှင့် Open Cut များ တူးဖော်၍ နမူနာများ ရယူဓာတ်ခွဲစမ်းသပ်ထားခြင်း၊ မြေပုံ၊ ဓာတ်ပုံနှင့် ဖြတ်ပိုင်းပုံများ ပြည့်စုံစွာဖော်ပြထားခြင်း၊ တန်ချိန်တွက်ချက်ပုံ နည်းစနစ်မှန်ကန်ခြင်းတို့ကြောင့် လုနော့ဂျန်ဒေသလုပ်ကွက်(၁)၏ Fe-၃၀.၅၆ % ပါဝင်သော (သ-၃)အဆင့် သံသတ္တုရိုင်းတန်ချိန် ၂၈၁၂၄ မက်ထရစ်တန်နှင့် လုပ်ကွက်(၄)၏ Fe-၃၀.၇၁ % ပါဝင်သော သံသတ္တုရိုင်း တန်ချိန် ၁၃၅၁၂၂ မက်ထရစ်တန်တို့သည် လက်ခံနိုင်ဖွယ်ရှိပါကြောင်းနှင့် Fe Content မှာ နည်းသဖြင့် ကုမ္ပဏီမှ တာဝန်ယူရန်လိုအပ်ပါကြောင်း စိစစ်ပြန်ကြားအပ်ပါသည်။

(signature)

ညွှန်ကြားရေးမှူးချုပ်

(ကျော်ဒင်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

KKKS/\\KKKS\Data_D\Ma Nila\2014\Tonnage amout.docx

လက်ခံရရှိပြီး
မှတ်ပုံတင်အမှတ် ၃၄၀၇
ရက်စွဲ ၂၈.၅.၂၀၁၃
အချိန် ၁၄:၃၅ နာရီ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာန
နေပြည်တော်

စာအမှတ်၊ ၃၂၄၄/၁၀၅၀/ဘဗမ/၂၀၁၃
ရက်စွဲ၊ ၂၀၁၃ ခုနှစ် မေလ ၂၈ ရက်

သို့
ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၁)သတ္တုတွင်းလုပ်ငန်း

အကြောင်းအရာ။ **သတ္တုသိုက်တန်ချိန်ပမာဏစိစစ်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ အမှတ်(၁)သတ္တုတွင်းလုပ်ငန်း၏ ၆.၅.၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၀၇၇/ သတလ-၁/ ဆလ(ဝယ်) ၁၃-၁၄

၁။ ကချင်ပြည်နယ် ချီဖွေမြို့နယ် ဖီမော်ကျေးရွာအုပ်စု လုပ်ကွက်(၂) (မြေပုံညွှန်း ၉၂ ကေ/ ၉၊ ၃၅၃၁၇၇၊ ၃၅၇၁၇၇၊ ၃၅၇၁၇၁၊ ၃၅၃၁၇၁)၊ လုပ်ကွက်(၃) ၃၅၈၁၇၂၊ ၃၆၄၁၇၂၊ ၃၆၄၀၆၈၊ ၃၅၈၀၆၈) တို့တွင် သံသတ္တုရိုင်း အသေးစားထုတ်လုပ်ခွင့်ပြုနိုင်ပါရန် ဆန်းလင်းအင်တာနေရှင်နယ်အိုင်စ်ပိုအန်အင်န်ပိုကုမ္ပဏီလီမိတက်မှ တင်ပြလာသည့် စမ်းသပ်တိုင်းတာရေးအစီရင်ခံစာကို ဤဦးစီးဌာန၏ ကျွမ်းကျင်မှုကော်မတီမှ စိစစ်ခဲ့ပါသည်။

၂။ ကုမ္ပဏီ၏ အစီရင်ခံစာ၌ လုပ်ကွက်ဒေသအတွင်းတွင် Coarse grained, milky white granite porphyry ကျောက်များနှင့် Fine to medium grained biotite, Hornblende granite များကို အဓိကတွေ့ရှိရကြောင်း၊ သတ္တုဇုန်များအတွင်း N-S လားရာရှိ Diorite (သို့) Granodiorite တို့အား အစက်အပြောက်သဏ္ဍာန်ဖြင့် သံသတ္တုရိုင်းတွင်းထွက်များနှင့်ရောလျက်တွေ့ရှိရကြောင်း၊ သတ္တုဖြစ်ထွန်းမှုအနေဖြင့် အိမ်ခံကျောက် Diorite နှင့်အတူ Disseminated Magnetite Ore အား Dyke-Like Deposit ပုံစံဖြင့် တွေ့ရပြီး Country Rock ဖြစ်သည့် Normal Granite အတွင်း တိုးဝင်ဖြစ်ပေါ်သော Argilic Zone တွေ့ရှိမှုအရ Late Hydrothermal Deposit အမျိုးအစားဖြစ်ကြောင်း၊ အဓိကသတ္တုရိုင်းတွင်းထွက်မှာ Magnetite ဖြစ်ပြီး Hematite, Limonite, Pyrite, Chalcopyrite, Malachite တို့အား Oxidized Zone အတွင်း တွေ့ရှိရပြီး Gangue Mineral အဖြစ် Quartz, Pyrite, Orthoclase နှင့် White Mica တို့ကို တွေ့ရှိရကြောင်း ရှင်းလင်းတင်ပြထားရာ ဘူမိဗေဒအရ လက်ခံနိုင်ပါသည်။

၃။ ကုမ္ပဏီသည် လုပ်ကွက်အတွင်း မြေပြင်ကွင်းဆင်းတိုင်းတာရေးလုပ်ငန်းများ ဆောင်ရွက်ခဲ့ပြီး ၁၀ ပေ ခြား မြေပြင်နိမ့်မြင့်ပြမြေပုံရေးဆွဲထားခြင်း၊ လုပ်ကွက်(၂)နှင့်(၃)တို့အား ဟင်းလင်းဖွင့်တူးဖော်သည့်စနစ်ဖြင့် တူးဖော်ထားပြီး လုပ်ကွက်(၂)၌ Mineralized Zone (၃)ခုနှင့် လုပ်ကွက်(၃)၌ ၁ ခုတွေ့ရှိရပြီး လုပ်ကွက်(၂)မှ နမူနာ ၁၄ လုံး၊ လုပ်ကွက်(၃)မှ နမူနာ ၄ လုံးရယူ၍ ရေချိန်သိပ်သည်းဆနှင့် ပျမ်းမျှသတ္တုသားပါဝင်နှုန်းတို့အား ဓာတ်ခွဲစမ်းသပ်ကာ သတ္တုပေါ်ထွက်ပိုင်းများမှ အလျား x အနံ x အနက် ရယူ၍ သတ်မှတ်ထားသော နည်းစဉ်ဖြင့် တန်ချိန်ပမာဏကို တွက်ချက်တင်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ ဤဦးစီးဌာနသည် လုပ်ကွက်အတွင်း မြေပြင်ကွင်းဆင်းစစ်ဆေးဆောင်ရွက်နိုင်ခြင်းမရှိသော်လည်း ကုမ္ပဏီအနေဖြင့် မြေပြင်နိမ့်မြင့်ပြမြေပုံရေးဆွဲထားခြင်း၊ နမူနာများစနစ်တကျရယူဓာတ်ခွဲစမ်းသပ်ထားခြင်း၊ မြေပုံ၊ ဓာတ်ပုံ၊ ဖြတ်ပိုင်းပုံများ ပြည့်စုံစွာဖော်ပြထားခြင်း၊ တန်ချိန်တွက်ချက်ပုံနည်းစနစ်မှန်ကန်ခြင်းတို့ကြောင့် ဖီမော် လုနော့ဂျန်းဒေသ လုပ်ကွက်(၂)နှင့်(၃)၏ ပျမ်းမျှ သံ (Fe) ၃၆.၁၈ % ပါဝင်သော (သ-၃)အဆင့် စုစုပေါင်း သံသတ္တုရိုင်း တန်ချိန် ၁၆၀၃၄၈၄ မက်ထရစ်တန်သည် လက်ခံနိုင်ဖွယ်ရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ဌာနခံ)
(ကျော်ဒင်၊ ညွှန်ကြားရေးမှူး)

**KBZ(LANMADAW BRANCH)**
NO.06/09,Lanmadaw Plaza,Lanmadaw Road,Lanmadaw Tsp.
Ph : 95-01-212763,212948
Fax : 95-01-210544

Date : 25 September , 2014

ACCOUNT NO. : 0041130002117

NAME : SAN LIN INTERNATIONAL EXPORT&IMPORT CO;LTD
NRC :
ADDRESS : NO-387 , R-15/27 , SHWEBONETHAR ST; ( UPPER ) PABEDAN
PHONE : 098030711 , 254775

## Statement Of Transaction For The Date Between 01/09/2014 And 22/09/2014

| Date Time | Description | Withdrawal Amount | Deposit Amount | Balance |
|---|---|---|---|---|
| [illegible]9/2014 | Opening Balance | | | 12,023,397.93 |
| 01 / 09 / 2014 | Online Withdrawal , 00987569 | 300,000.00 | | 11,723,397.93 |
| 01 / 09 / 2014 | Remit Transfer, MKN , U KHIN MG MYINT | | 29,000,000.00 | 40,723,397.93 |
| 01 / 09 / 2014 | Online Withdrawal , 00987570 | 1,000,000.00 | | 39,723,397.93 |
| 02 / 09 / 2014 | Online Withdrawal , 00987571 | 2,500,000.00 | | 37,223,397.93 |
| 03 / 09 / 2014 | Online Withdrawal , 00987572 | 25,000,000.00 | | 12,223,397.93 |
| 15 / 09 / 2014 | Online Withdrawal U AUNG MINE , 00987577 | 1,000,000.00 | | 11,223,397.93 |
| 16 / 09 / 2014 | Online Withdrawal , 00987574 | 250,000.00 | | 10,973,397.93 |
| 18 / 09 / 2014 | Online Withdrawal , 00987578 | 2,000,000.00 | | 8,973,397.93 |
| 22 / 09 / 2014 | Online Withdrawal , 00987579 | 2,000,000.00 | | 6,973,397.93 |
| 2[illegible]9 / 2014 | Remit Transfer, NPT , U WIN OO(NAYPYITAW BRANC | | 50,000,000.00 | 56,973,397.93 |
| 22[illegible]09 / 2014 | Remit Transfer, MKN , U KHIN MG MYINT | | 3,000,000.00 | 59,973,397.93 |
| 22 / 09 / 2014 | Closing Balance | | | 59,973,397.93 |

No. of Withdrawals : 8
No. of Deposits : 3

Thank You For Banking With KBZ(LANMADAW BRANCH)

Please report any descrepencies found on your statement immediately.
N.B - Statement will not be sent unless there is a change of transaction.

For KBZ(LANMADAW BRANCH)

Asst: / DY Manager

သက်တမ်းတိုး

00036810

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ....၈၀၀..... / ၁၉၉၃-၁၉၉၄

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ဆန်းလင်း အင်တာနေရှင်နယ် အိတ်(စ်)ပို့အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက် ............ အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၁၉၉၃..နှစ်၊ ဒီဇင်ဘာ.....လ၊ ...၁၃..ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား ၂၀၁၂..နှစ်၊ဒီဇင်ဘာ.....လ၊ .၂၈..ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

စက်မှု/ထုတ်လုပ်မှု
INDUSTRIAL PRODUCTION

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(နန်းရီရီသန်း၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ..........800.......... of 1993-1994

I hereby certify that the tenure of SAN LIN INTERNATIONAL EXPORT AND IMPORT COMPANY LIMITED ............ incorporated under the Myanmar Companies Act on 13th DECEMBER, 1993 is renewed with effected from 28th DECEMBER, 2012

စက်ရုံအလုပ်ရုံတည်ရှိရာအရပ်သည် စက်မှုလက်မှုဇုန်တွင်ဖြစ်စေရမည်။ (သို့မဟုတ်) ဆူညံနေရပ်ကွက်နှင့်ကင်းလွတ်ရာအရပ်၌ဖြစ်စေရမည်။

**For Director General**
**(Nang Yi Yi Than, Director)**
Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ......ဦးမြင့်ဦး (၁၂/ကမတ(နိုင်) ၀၂၀၆၆၂)

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ ...တိုက်အမှတ်(၃၈၇)၊ အခန်းအမှတ်(၁၅/၂၇)၊ ရွှေဘုံသာလမ်း၊
...ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။..........

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ......၀၁-၂၅၄၇၇၅..................

(ဃ) ဒါရိုက်တာများ အမည်စာရင်း–..................................

(၁) ဦးဇခုန်တိန့်ယိန်း(ဥက္ကဋ္ဌ)
၁/မကန(နိုင်) ၀၅၃၁၁၇

(၂) ဦးဇခုန်ယိန်းဆောင် (ဒု-ဥက္ကဋ္ဌ)
၁၂/မရက(နိုင်) ၁၁၉၃၉၇

(၃) ဦးဇခုန်ယိန်းချမ်း
၁၂/မရက(နိုင်) ၁၁၉၃၉၈

(၄) ဒေါ်ယိမ်းမျှော်
၁/ခဖန(နိုင်) ၀၀၂၀၀၇

(၅) ဦးလဝေ့ဘောမ်လန်း
၁/မကန(နိုင်) ၀၉၅၇၁၁

(၆) ဦးဗျာပို့
၁/သမန(နိုင်) ၀၁၂၈၉၇

မှတ်ချက်။

(၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁-၃-၂၀၁၃ )မှ ( ၂၈-၂-၂၀၁၆ )ရက်နေ့အထိ(၃)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စု ဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင် မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

( မြင့်လွင်၊ ဒုတိယညွှန်ကြားရေးမှူး )

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# ဆန်းလင်း အင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်)အင်ပို့ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ

- - - - - -

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

**AND**

# Articles Of Association

**OF**

**SAN LIN INTERNATIONAL EXPORT AND IMPORT COMPANY LIMITED**

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဆန်းလင်း အင်တာနေရှင်နယ် အိကျ(စ်)ပို့ အင်(န်)အင်ပို့ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

-------

၁။ ကုမ္ပဏီ၏ အမည်သည် " ဆန်းလင်း အင်တာနေရှင်နယ် အိကျ(စ်)ပို့ အင်(န်)အင်ပို့ ကုမ္ပဏီလီမိတက်" ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၅၀၀,၀၀၀,၀၀၀ /- ( ကျပ် သန်းငါးရာတိတိ ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀ /- (ကျပ်တစ်သောင်းတိတိ)တန် အစုရှယ်ယာပေါင်း ( ၅၀၀၀၀ )ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့်လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့်အာဏာရှိစေရမည်။

REGISTRATION OFFICE

# စက်မှုလက်မှုနှင့်ထုတ်လုပ်မှုလုပ်ငန်း ရည်ရွယ်ချက်

၁။ နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်များနှင့်ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း။

(ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း။

(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊

(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း။

(င) ဓါတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊

(စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊

(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့်သုတ်ဆေးများ ထုတ်လုပ်ခြင်း၊

(ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဌ) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဍ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊

(ဎ) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊

၂။ အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသော ကုန်ချောများ တစ်စိတ်တစ်ဒေသကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်၊

၃။ ကုမ္ပဏီမှသင့်လျော် လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှပဆို ငွေချေးယူရန်၊

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း၊ သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကိုဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့် အလျောက်ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြသထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| (၁) | ဦးမြင့်ဦး<br>အမှတ်(၈၇)၊အုန်းပင်လမ်း၊ကြည့်မြင်တိုင်မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁၂/ကမတ(နိုင်)<br>၀၂၀၆၆၂ | ၆၂၅ | |
| (၂) | ဦးဇခုန်တိန့်ယိန်း<br>အမှတ်၁၂(က)၊စော်ဘွားလမ်း၊(၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁/မကန(နိုင်)<br>၀၅၃၁၁၇ | ၁၆၂၅ | |
| (၃) | ဦးဇခုန်ယိန်းဆောင်<br>အမှတ်၁၂(က)၊စော်ဘွားလမ်း၊(၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁၂/မရက (နိုင်)<br>၁၁၉၃၉၇ | ၁၃၇၅ | |
| (၄) | ဦးဇခုန်ယိန်းချမ်း<br>အမှတ်၁၂(က)၊စော်ဘွားလမ်း၊(၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁၂/မရက (နိုင်)<br>၁၁၉၃၉၈ | ၁၃၇၅ | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၃ ခုနှစ် ၊ ဒီဇင်ဘာလ ၊ ၆ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့် အလျောက်ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြသထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊ နေရပ်လိပ်စာနှင့်<br>အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| (၅) | ဒေါ်ယိမ်းမျှော်<br>အမှတ်၁၂(က)၊စော်ဘွားလမ်း၊(၅)ရပ်ကွက်၊<br>မရမ်းကုန်းမြို့နယ်။ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁/ခဖန (နိုင်)<br>၀၀၂၀၀၇ | ၂၀ | |
| (၆) | ဦးလငွေဘောမ်လန်း<br>အမှတ်(၅၀) ပြည်ထောင်စုလမ်း၊မြို့သစ်ကြီး<br>ရပ်ကွက်၊မြစ်ကြီးနား၊ကချင်ပြည်နယ်။<br>(ကုန်သည်) | မြန်မာ<br>၁/မကန (နိုင်)<br>၀၉၅၇၁၁ | ၂၀ | |
| (၇) | ဦးဗျာဝို့<br>အမှတ်(၅၀) ပြည်ထောင်စုလမ်း၊မြို့သစ်ကြီး<br>ရပ်ကွက်၊မြစ်ကြီးနား၊ကချင်ပြည်နယ်။<br>(ကုန်သည်) | မြန်မာ<br>၁/သမန(ယ)<br>၀၁၂၈၉၇ | ၂၀ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၉ ခုနှစ် ၊ မေလ ၊ ၃၀ ရက်။
အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင်
လက်မှတ်ရေးထိုးကြပါသည်။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဆန်းလင်း အင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်)အင်ပို့ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

---

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က'ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့်မလိုက်နာမနေရစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည်အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီဖြစ်၍အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က)ဤကုမ္ပဏီကခန့်အပ်ထားသောဝန်ထမ်းများမှအပ၊ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကိုငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ)ဤကုမ္ပဏီ၏ အစုရှယ်ယာသို့မဟုတ်ဒိဘင်ချာ သို့မဟုတ် ဒိဘင်ချာစတော့(ခ်)တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မတည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်း မှာ ကျပ် ၅၀၀,၀၀၀,၀၀၀ /-(ကျပ်

သန်းငါးရာ တိတိ)ဖြစ်၍ ငွေကျပ် ၁၀,၀၀၀ /-(ကျပ်

တစ်သောင်း တိတိ)တန်အစုရှယ်ယာပေါင်း( ၅၀၀၀၀ )ခွဲထားပါသည်။

ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက်အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင်ရှိစေရမည်။၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေတစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်းသို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါကအဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင်ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည်( ၂ )ဦး ထက်မနည်း၊( ၁၅ )ဦးထက်မများစေရ။
ပထမဒါရိုက်တာများသည်-

(၁) ဦးမြင့်ဦး
(၂) ဦးဇခုန်တိန့်ယိန်း
(၃) ဦးဇခုန်ယိန်းဆောင်
(၄) ဦးဇခုန်ယိန်းချမ်း
(၅) ဒေါ်ယိမ်းမျှော်
(၆) ဦးလဂွေဘောမ်လန်း
(၇) ဦးဗျာဝို့

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ဥာဏ်ပူဇော်များဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး( - )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ၈၅ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ –

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထား‌သော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၄င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသားနေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့် အလျောက်ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြသထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| (၁) | **ဦးမြင့်ဦး**<br>အမှတ်(၈၇)၊အုန်းပင်လမ်း၊ကြည့်မြင်တိုင်မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁၂/ကမတ(နိုင်)<br>၀၂၀၆၆၂ | ၆၂၅ | |
| (၂) | **ဦးဇခုန်တိန့်ယိန်း**<br>အမှတ်၁၂(က)၊စော်ဘွားလမ်း၊(၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်။ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁/မကန(နိုင်)<br>၀၅၃၁၁၇ | ၁၆၂၅ | |
| (၃) | **ဦးဇခုန်ယိန်းဆောင်**<br>အမှတ်၁၂(က)၊စော်ဘွားလမ်း၊(၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်။ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁၂/မရက (နိုင်)<br>၁၁၉၃၉၇ | ၁၃၇၅ | |
| (၄) | **ဦးဇခုန်ယိန်းချမ်း**<br>အမှတ်၁၂(က)၊စော်ဘွားလမ်း၊(၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်။ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁၂/မရက (နိုင်)<br>၁၁၉၃၉၈ | ၁၃၇၅ | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၃ ခုနှစ် ၊ ဒီဇင်ဘာလ ၊ ၆ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့် အလျောက်ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြသထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| (၅) | ဒေါ်ယိမ်းမျှော်<br>အမှတ်၁၂(က)၊စော်ဘွားလမ်း၊(၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁/ခဖန (နိုင်) ၀၀၂၀၀၇ | ၂၀ | |
| (၆) | ဦးလဝွေဘောမ်လန်း<br>အမှတ်(၅၀) ပြည်ထောင်စုလမ်း၊မြို့သစ်ကြီး ရပ်ကွက်၊မြစ်ကြီးနား၊ကချင်ပြည်နယ်။<br>(ကုန်သည်) | မြန်မာ<br>၁/မကန (နိုင်) ၀၉၅၇၁၁ | ၂၀ | |
| (၇) | ဦးဗျာဝို့<br>အမှတ်(၅၀) ပြည်ထောင်စုလမ်း၊မြို့သစ်ကြီး ရပ်ကွက်၊မြစ်ကြီးနား၊ကချင်ပြည်နယ်။<br>(ကုန်သည်) | မြန်မာ<br>၁/သမန(ယ) ၀၁၂၈၉၇ | ၂၀ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၉ ခုနှစ် ၊ မေလ ၊ ၃၀ ရက်။
အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင်
လက်မှတ်ရေးထိုးကြပါသည်။

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

## SAN LIN INTERNATIONAL EXPORT AND IMPORT COMPANY LIMITED

— — — — — — —

I. The name of the Company is **SAN LIN INTERNATIONAL EXPORT AND IMPORTCOMPANY LIMITED**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks. 500,000,000 /-(Kyats Five Hundred Million Only) divided into ( 50,000 ) shares of Ks. 10,000 /-( Kyats Ten Thousand Only) each, with power in General Meeting either to increase, ruduce or alter such capital from time to time in accordance with the regulations of the Company and thelegislative provisions for the time being in force in this behalf.

COMPANIES REGISTRATION OFFICE

## Objectives of Industry and Manufacturing

1. To carry on the business of manufacturing, growing, milling and preserving etc; of the following commodities permitted by the Government, either solely on its own or in Joint-venture with any local or foreign partners.
   (a) Growing, producing, harvesting, preserving, packing, milling and manufacturing of agricutural and farm products.
   (b) Felling, extracting (with the permission from the authorities concerned) milling, manufacturing, preserving and seasoning of timber (excluding teak) and forest products.
   (c) Livestock breeding, processing and canning of livestock products.
   (d) Fishing, preserving, milling, canning and processing of marine products.
   (e) Producing fertilizers, insecticides and animal feeds.
   (f) Manufacturing of personal goods.
   (g) Manufacturing of household goods.
   (h) Manufacturing of vehicles, machineries and spares.
   (i) Manufacturing of arts and crafts, lacquerwares and furniture.
   (J) Manufacturing of construction materials and paints.
   (k) Manufacturing of factory utencils.
   (1) Manufacturing of electrical and electronic goods.
   (m) Manufacturing of textile, garments and clothings.
   (n) To carry on the business of exploration, exploitation, production, processing of minerals and marketing of its products with the permission of the Government.

2. To import machinery, spare parts, raw materials and others necessary for those activities mentioned above and to sell wholesale and retail finished and semi-finished products locally and abroad.
3. To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manner that the Company shall think fit.

**PROVISO:** Provided that the Company shall not exercise any of the above objects whether in the Union ofMyanmar or elsewhere, save in so for as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union ofMyanmar for the time being in force

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| (1) | **U MYINT OO**<br>No.87, Ohnbin Street, Kyimyindine Township Yangon.<br>(Merchant) | **Myanmar**<br>12 / Ka Ma Ta (Naing) 020662 | **625** | |
| (2) | **U ZA KHUNG TING YING**<br>No.12(A), Sawbwa Street,5th Ward, Mayangone Township Yangon.<br>(Merchant) | **Myanmar**<br>1/ Ma Ka Na (Naing) 053117 | **1625** | |
| (3) | **U ZA KHUNG YING SAUNG**<br>No.12(A), Sawbwa Street,5th Ward, Mayangone Township Yangon.<br>(Merchant) | **Myanmar**<br>12/ Ma Ya Ka (Naing) 119397 | **1375** | |
| (4) | **U ZA KHUNG YING CHAN**<br>No.12(A), Sawbwa Street,5th Ward, Mayangone Township Yangon.<br>(Merchant) | **Myanmar**<br>12/ Ma Ya Ka (Naing) 119398 | **1375** | |

Yangon Dated the 6th day of December 1993.

*It is hereby certified that the persons mentioned above put their signatures in my presence.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| (5) | **DAW YING MYAW**<br><br>No.12(A), Sawbwa Street, 5th Ward, Mayangone Township Yangon.<br><br>(Merchant) | **Myanmar**<br><br>1 / Kha Pha Na (Naing) 002007 | **20** | |
| (6) | **U LA GWAY BOM LAN**<br><br>No.50, Pyi Htaung Su Road, Myothitkyi (Qr), Myitkyina Kachin State.<br>(Merchant) | **Myanmar.**<br><br>1/ Ma Ka Na (Naing) 095711 | **20** | |
| (7) | **U BYAR WOU**<br><br>No.50, Pyi Htaung Su Road, Myothitkyi (Qr), Myitkyina Kachin State.<br>(Merchant) | **Myanmar**<br><br>1/Wa Ma Na (Naing) 012897 | **20** | |

Yangon Dated the 30th day of May 2009.

*It is hereby certified that the persons mentioned above put their signatures in my presence.*

ကို သတလ(၁)မှတဆင့် ဝန်ကြီးဌာနသို့ လျှောက်ထားနိုင်သည်။ယင်းသို့ သက်တမ်းတိုးမြှင့်ခြင်းသည် ပြည်ထောင်စုအစိုးရအဖွဲ့၏ အတည်ပြုချက်ရမှသာလျှင် အတည်ဖြစ်သည်။

## အပိုင်း(၉)
## အထွေထွေတာဝန်များ

**ကန်ထရိုက်တာ၏ တာဝန်များ**

၉-၁။ ကန်ထရိုက်တာသည် အောက်ပါတို့ကို တာဝန်ယူရမည်-

(က) သံသတ္တုရိုင်း တူးဖော်မည့်လုပ်ကွက် နယ်နိမိတ်သတ်မှတ်ခြင်းလုပ်ငန်းအတွက် ကုန်ကျစရိတ်များကို ကျခံရမည်။

(ခ) နှစ်ဘက်အတည်ပြုသတ်မှတ်ထားသည့် လုပ်ငန်းအစီအစဉ်များအရ သံသတ္တုရိုင်းတူးဖော်ထုတ်လုပ်ရာတွင် ကုန်ကျစရိတ်၊ ဆင့်တက်ပြုပြင်စရိတ်၊ သယ်ယူပို့ဆောင်မှုကုန်ကျစရိတ်နှင့် အခြား အထွေထွေကုန်ကျစရိတ်များ အားလုံးကို ကျခံရမည်။

(ဂ) ပုံသေမြေငှားရမ်းခ၊ ဓာတ်သတ္တုခွန်နှင့် သတလ(၁)ဝေစု အချိုးများကို သတ်မှတ်ရက်အတွင်း အပြည့်အဝပေးသွင်းရမည်။

(ဃ) ဤလုပ်ငန်းသဘောတူစာချုပ်အရ လုပ်ကိုင်ခွင့်ရှိသော နောက်ဆက်တွဲ (က-၁)ပါ လုပ်ကွက်ဧရိယာအတွင်း၌ အထက်အပိုင်း(၅)၊ အပိုဒ် ၅-၁ ပါ အတည်ပြုပြီးသော လုပ်ငန်းအစီအစဉ်များအတိုင်းသာ တူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းကို ပြုလုပ် ရမည်။

(င) တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းများကို ကောင်းမွန်မှန်ကန်သော ဓာတ်သတ္တုတူးဖော်မှု အတွေ့အကြုံများကိုအခြေခံ၍ သတ္တုတွင်းဒီဇိုင်းနှင့်အညီ သတ္တုသိုက်လေလွင့်ဆုံးရှုံးမှု မရှိစေသော အကောင်းဆုံးနည်းစနစ်များကို လိုက်နာဆောင်ရွက်ရန်နှင့် နောင်ဆက်လက်ဆောင်ရွက်ရမည့် ထုတ်လုပ်မှုလုပ်ငန်းများကို မထိခိုက်အောင် ဆောင်ရွက်ရမည်။

(စ) တူးဖော်ထုတ်လုပ်မှုဆောင်ရွက်ရာတွင် ကုန်ထုတ်လုပ်မှုစွမ်းအား အပြည့်အဝရရှိနိုင်ရေးအတွက် လုပ်ငန်းကျွမ်းကျင်သူအင်ဂျင်နီယာ၊ ဘူမိဗေဒပညာရှင်၊ ကျွမ်းကျင်လုပ်သားများကို လုံလောက်စွာ ခန့်ထားရမည်။

(ဆ) လုပ်ငန်းအစီအစဉ်များကို ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရမှ ပြဋ္ဌာန်းထုတ်ပြန်ထားသော မြန်မာ့သတ္တုတွင်းဥပဒေ၊ နည်းဥပဒေများ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ အမိန့်ကြော်ငြာစာများ၊ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ရမည်။

(ဇ) အပိုင်း(၇)၊ အပိုဒ် ၇-၂ ပါ ထုတ်လုပ်မှု လျာထားချက်အား ပြည့်မီကျော်လွန်အောင် ထုတ်လုပ်သွားရန်နှင့်လျာထားချက်မပြည့်မီပါက မပြည့်မီရသည့်အကြောင်းကို ခိုင်လုံသော အကြောင်းပြချက်၊ အထောက်အထားနှင့်တကွ သတလ(၁)သို့ ထုတ်လုပ်ဆောင်ရွက်သည့် လ၏ နောက်လအတွင်းတင်ပြပြီး ဝန်ကြီးဌာန၏ အတည်ပြုချက်အတိုင်း လိုက်နာဆောင်ရွက်ရမည်။

(ဈ) ဤလုပ်ငန်းသဘောတူစာချုပ်အရ လုပ်ကိုင်ခွင့်ပြုသည့်လုပ်ကွက်တွင် လုပ်ငန်းအစီအစဉ်အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန် ကန်ထရိုက်တာအား ယုံကြည်စွာဖြင့် အပ်နှံလုပ်ကိုင်ခွင့်ပြုပြီး လုပ်ကွက်မှ ထွက်ရှိသည့် သံသတ္တုများမှ သတ်မှတ်အချိုးအား သတလ(၁)သို့ မအပ်နှံမီ ကိုယ်စားပြုစီမံခန့်ခွဲခွင့်ကို ယာယီဆောင်ရွက်ရန် တာဝန်ရှိသည်။

(ည) တူးဖော်ထုတ်လုပ်ခြင်း၊ သိုလှောင်ခြင်း၊ အသုံးပြုခြင်း သယ်ယူရောင်းချခြင်းတို့နှင့် ပတ်သက်သည့် လစဉ်အစီရင်ခံစာကိုသတ်မှတ်ထားသော ပုံစံများဖြင့် ဖြည့်သွင်း၍ သတလ(၁)နှင့် ဦးစီးဌာနတို့သို့ လစဉ် ဒုတိယပတ်အတွင်း အချိန်မှန်မှန်ပေးပို့ရမည်။

(ဋ) ကျွမ်းကျင်မှုဆိုင်ရာ သုံးသပ်ချက်များပါဝင်သော သုံးလပတ်အစီရင်ခံစာများကို အချိန်မီတင်ပြသွားရန်နှင့် နှစ်ချုပ်အစီရင်ခံစာများကိုလည်း နှစ်စဉ်ဧပြီလဆန်းမှ(၁)လအတွင်း အထက် အပိုဒ် ၉-၁(ည)ပါ အတိုင်း အချိန်မှန်မှန် ပေးပို့ရမည်။

(ဌ) စာချုပ်ပါ ထုတ်လုပ်မှု လျာထားချက်အတိုင်း ထုတ်လုပ်ပြီး မရောင်းချနိုင်ပါက (၆)လလျှင် တစ်ကြိမ် ဖြင့် ဌာနမှ အချိုးကျရရှိမည့် သတ္တု၏ ၅၀%နှင့် ဓာတ်သတ္တုခွန်ကို ဦးစီးဌာနနှင့် သတလ(၁)သို့ ငွေသားဖြင့် ပေးသွင်းရမည်။ ဈေးနှုန်းကို London Metal Exchange အပေါ် အခြေခံ၍ ကြိုတင်အရောင်း သဘောတူညီချက်ဖြင့် တွက်ချက် သတ်မှတ်ရမည်။

(ဍ) လုပ်ကိုင်ခွင့်ရှိသော လုပ်ကွက်ဧရိယာ နယ်နိမိတ်အတွင်းရှိ သစ်ပင်များကို သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ ခုတ်လှဲခြင်း၊ သစ်ပင်ခုတ်ခြင်း မပြုလုပ်ရ။ လုပ်ကွက်ရှိ မလွတ်ကင်းသော သစ်ပင်များကို ခုတ်လှဲရန်လိုအပ်ပါက သစ်တောဦးစီးဌာန၏ ကြိုတင်ခွင့်ပြုချက်ရယူရန်နှင့် ခုတ်လှဲသော သစ်ပင်များကို အသုံးပြုလိုလျှင် သစ်တောဦးစီးဌာနမှ သတ်မှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရမည်။

(ဎ) တူးဖော်ရန်ခွင့်ပြုမိန့်ပေးထားသည့် ဧရိယာအတွင်း၌သော်လည်းကောင်း၊ အပြင်၌သော်လည်းကောင်း၊ ခွင့်ပြုချက်မရှိဘဲ သစ်ပင်ခုတ်လျှင် တည်ဆဲသစ်တောဥပဒေအရ အရေးယူခြင်းနှင့် တူးဖော်ခွင့် ဖျက်သိမ်းသည်အထိ ပြင်းထန်စွာအရေးယူခြင်းခံရမည်ကို သိရှိနားလည်သဘောတူလက်ခံရမည်။

(ဏ) စတင်တူးဖော်မှုလုပ်ငန်းမှ ထွက်ရှိသည့် အပေါ်ယံ မြေဆီလွှာများ (Top Soil) ကို စနစ်တကျ စုပုံထိန်းသိမ်းထားရှိ၍ ထိုမြေဆီလွှာများကို သတ္တုတွင်း ပိတ်သိမ်းချိန်တွင် တူးဖော်ထားသည့် ကျင်း၊ ချိုင့်၊ ကလိုင်များမြေဖို့ရာတွင် ပြန်လည်အသုံးပြုပြီး မိုင်းပိတ်သိမ်းမှု လုပ်ငန်းစဉ်ပါ စီမံချက်များအတိုင်း သစ်တော၊ သစ်ပင်များကို ရှင်သန်သည်အထိ ပြန်လည်စိုက်ပျိုးပေးရန် တာဝန်ယူရမည်။

(တ) တူးဖော်ပြီးမြေဧရိယာတွင် ကုမ္ပဏီမှသစ်ပင်စိုက်ပျိုးနိုင်သည့်အထိ မြေပြန်လည်ဖို့ ပေးရန်နှင့် သစ်တောစိုက်ခင်းများ ပြန်လည်တည်ထောင်ပေးခြင်း (သို့မဟုတ်) သစ်ပင်ပြန်လည် စိုက်ပျိုးမည့် ကုန်ကျစရိတ်ကို ကျခံပေးရမည်။

(ထ) တူးဖော်ခြင်းမှထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများသည် မြစ်ချောင်း၊ အင်းအိုင်များကိုသော်လည်းကောင်း၊ အများပြည်သူတို့နှင့် သက်ဆိုင်သောလမ်းများ၊ အဆောက်အဦများကိုသော်

လည်းကောင်း၊ ညစ်ညမ်းမှု၊ ပိတ်ဆို့မှုနှင့် အခြားပတ်ဝန်းကျင်ညစ်ညမ်းထိခိုက်မှုများ မရှိစေရန် ဆောင်ရွက်ရမည်။

(ဒ) တူးဖော်ထုတ်လုပ်ရာမှ ထွက်ရှိလာသော စွန့်ပစ်မြေစာများသည်ပတ်ဝန်းကျင် လယ်ယာမြေများ၏ မြေဆီလွှာထိခိုက်ပျက်စီးမှုနှင့် မြစ်ချောင်းများညစ်ညမ်းမှုတို့ကြောင့် ဒေသခံပြည်သူများ၏ လူမှုစီးပွားထိခိုက်ပျက်စီးမှု မဖြစ်ပေါ်စေရန်အတွက် စာချုပ်ဝင်နှစ်ဦးတို့က ရွေးချယ်အတည်ပြုထားသောမြေနေရာ (Destination)တွင်သာ စွန့်ပစ်ရမည်။ သတ္တုဆင့်တက်ပြုပြင်မှု လုပ်ငန်းအဆင့်ဆင့်နှင့် သတ္တုသန့်စင်နည်းစဉ်ဖြင့် ထုတ်လုပ်ဆောင်ရွက်ရာတွင် စက်ရုံ၏ စွန့်ပစ်ပစ္စည်း (Tailing)များအား စွန့်ပစ်ကန် (Tailing Pond)အတွင်းသာ စနစ်တကျ စွန့်ပစ်ရမည်။

(ဓ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့် ခွင့်ပြုမိန့်ပါမြေနှင့် စပ်လျဉ်း၍ အငြင်းပွားမှု၊ စောဒကတက်မှုများ၊ သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးစေမှုနှင့် သက်ဆိုင်သော တိုင်ကြားချက်များဖြစ်ပွားပါက ကန်ထရိုက်တာမှ တာဝန်ယူဖြေရှင်းရန်နှင့် မဖြေရှင်းနိုင်ပါက ခွင့်ပြုမိန့် ရုပ်သိမ်းခြင်း၊ ပေးသွင်းထားသည့် အခွန်အခနှင့် အခြားပေးသွင်းမှုများသိမ်းယူခြင်း၊ လုပ်ကွက် ပိတ်သိမ်းခြင်းခံရမည်ကို သဘောတူလက်ခံရမည်။

(န) တူးဖော်ထုတ်လုပ်သည့်လုပ်ငန်းကြောင့်ဒေသတွင်းတည်ရှိနေသောလယ်ယာမြေ၊အိမ်၊ ခြံတို့နှင့်ပတ်သက်၍ ထိခိုက်မှုရှိလျှင် သက်ဆိုင်ရာဒေသအုပ်ချုပ်ရေးအာဏာပိုင်များ၏ အဆုံးအဖြတ်ကိုလိုက်နာရမည်။

(ပ) ကန်ထရိုက်တာသည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနက လက်ခံကျင့်သုံးသည့် စံချိန်စံညွှန်းနှင့်အညီ သဘာဝပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက် (Environmental Impact Assessment - EIA)၊ လူမှုပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက် (Social Impact Assessment - SIA)၊ ပတ်ဝန်းကျင်ပြည်သူလူထု၏ ကျန်းမာရေးထိခိုက်မှုဆန်းစစ်ချက် (Health Impact Assessment - HIA)တို့အား စာချုပ်မချုပ်ဆိုမီ ပြုစုတင်ပြရမည်၊ ၎င်းဆန်းစစ်ချက်ပါ အချက်များကို အခြေခံ၍ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်(Environmental Management Plan - EMP) ကိုထုတ်လုပ်မှုမစတင်မီ သတလ (၁)သို့ ဆက်လက်တင်ပြပြီး ယင်းစီမံချက်ပါအတိုင်း အပြည့်အဝလိုက်နာရမည်။

(ဖ) ဤသဘောတူစာချုပ် သက်တမ်းကုန်ဆုံးလျှင်သော်လည်းကောင်း၊ အကြောင်းတစ်ရပ်ရပ်ကြောင့် လုပ်ငန်းရပ်စဲ၍စာချုပ်အား ရပ်စဲလျှင်သော်လည်းကောင်း၊ သတ္တုတွင်းဝန်ကြီးဌာနမှ စိစစ်လက်ခံအတည်ပြုထားသော သတ္တုတွင်းလုပ်ကွက်ပိတ်သိမ်းမှု အစီအစဉ် (Mine Closure Plan)အတိုင်း စနစ်တကျ အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဗ) သတ္တုတွင်းလုပ်ကွက် ပြန်လည်အပ်နှံခြင်း၊ ပိတ်သိမ်းခြင်းအတွက် သတ္တုတွင်းပိတ်သိမ်းခြင်း အစီအစဉ် (Mine Closure Plan)အတိုင်း ဆောင်ရွက်ရန် ရန်ပုံငွေကို ထုတ်လုပ်မှုကာလ အတွင်း သတ်မှတ်ထားရှိရမည်။

(ဘ) ဒေသလူမှုပတ်ဝန်းကျင် ဖွံ့ဖြိုးတိုးတက်ရေးအတွက် လူမှုရေးတာဝန်ယူမှု (C.S.R) လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် သတ်မှတ်ရန်ပုံငွေထားရှိ ဆောင်ရွက်ရမည်။

(မ) နိုင်ငံတော်က ပြဋ္ဌာန်းထားသည့် တည်ဆဲအခွန်အကောက်ဆိုင်ရာ ဥပဒေများအရ ပေးဆောင်ရမည့် အခွန်အကောက်နှင့် ကျသင့်သည့်အခများကို ပေးဆောင်ရမည်။

(ယ) လုပ်ငန်းသဘောတူစာချုပ်၌ မြန်မာနိုင်ငံတံဆိပ်ခေါင်း အက်ဥပဒေအရ သတ်မှတ်ချက်နှင့်အညီ တံဆိပ်ခေါင်းခွန်ပေးဆောင်၍ တံဆိပ်ခေါင်းကပ်ရန် တာဝန်ယူရမည်။

(ရ) သတ္တုတူးဖော်ထုတ်လုပ်ရေးအတွက် ခန့်ထားသောအလုပ်သမားများအား အလုပ်သမားဝန်ကြီးဌာနမှ သတ်မှတ်ပြဋ္ဌာန်းချက်များ၊ အလုပ်သမားဥပဒေများပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရမည်။

(လ) ဝန်ထမ်းနှင့် အလုပ်သမားများ လုပ်ငန်းခွင် ဘေးအန္တရာယ် ကင်းရှင်းရေးနှင့် ကျန်းမာရေးလုပ်ငန်းများကို တည်ဆဲဥပဒေများနှင့်အညီ ဆောင်ရွက်ပေးရမည်။

(ဝ) သတ်မှတ်ခွင့်ပြုထားသော လုပ်ကွက်ဧရိယာအတွင်း အခိုင်အမာ အဆောက်အဦများ တည်ဆောက်ခြင်း၊ ဘာသာရေးဆိုင်ရာ အဆောက်အဦများ ဆောက်လုပ်ခြင်းနှင့် လူနေကျေးရွာတည်ဆောက်ခြင်း မပြုရ။

**သတလ(၁)၏ တာဝန်များ**

၉-၂။ သတလ(၁)သည် အောက်ပါတို့ကို တာဝန်ယူရမည်-

(က) တူးဖော်ထုတ်လုပ်ရေးအတွက်လိုအပ်သည့် ယမ်းဘီလူးနှင့် ဆက်စပ်သုံးပစ္စည်းများ ဝယ်ယူရရှိရေး၊ သုံးစွဲနိုင်ရေးအတွက် ကူညီပေးရမည်။

(ခ) တူးဖော်မှုလုပ်ငန်းတွင် ကန်ထရိုက်တာမှ ဌာနဆိုင်ရာခွင့်ပြုချက်များ ရရှိစေရန် လိုအပ်သလို ညှိနှိုင်းပံ့ပိုး ကူညီဆောင်ရွက်ပေးရမည်။

(ဂ) ကန်ထရိုက်တာသည် နည်းပညာနှင့်ကျွမ်းကျင်မှု အကူအညီများတောင်းခံလာပါက ပံ့ပိုးကူညီ ဆောင်ရွက်ပေးရမည်။

(ဃ) လုပ်ငန်းစီမံချက်အရ ထုတ်လုပ်မှု လျာထားချက်အား ပြည့်မီကျော်လွန်အောင် ထုတ်လုပ်နိုင်ရေး ကြီးကြပ်သွားရန်နှင့် ထုတ်လုပ်မှုလျာထားချက်မပြည့်မီပါက စိစစ်သုံးသပ်ချက်နှင့်တကွ ဝန်ကြီးဌာနသို့ ဆက်လက်တင်ပြရမည်။

(င) ပုံသေမြေငှားရမ်းခ၊ ဓာတ်သတ္တုခွန်နှင့် သတလ(၁)မှ ရရှိမည့်အချိုးများကို သတ်မှတ်ရက်အတွင်း အပြည့်အဝပေးသွင်းရေး ကြပ်မတ်ဆောင်ရွက်ရမည်။

## အပိုင်း (၁၀)
## သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက်

၁၀-၁။ ကန်ထရိုက်တာအနေဖြင့် စီမံကိန်းဧရိယာနှင့် ပတ်ဝန်းကျင်ဧရိယာများ၏ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် တာဝန်ယူရမည်။ သံသတ္တုထုတ်လုပ်မှုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာသည့် မြေယာ

သုံးစွဲမှု ပြဿနာ၊ လူမှုရေးဆိုင်ရာ ပြဿနာ၊ ဂေဟစနစ် ဆိုင်ရာပြဿနာ၊ လေထုညစ်ညမ်းမှုနှင့် အသံဆူညံမှု၊ တုန်ခါမှုများ၊ ရှုခင်းရှုကွက်ကို ထိခိုက်ပျက်ယွင်းစေသည့် သဘာဝပတ်ဝန်းကျင် ထိခိုက်မှုနှင့် ဆက်စပ်ပတ်သက်သည့် အခြင်းအရာများကို ကန်ထရိုက်တာက ထိန်းသိမ်းဆောင်ရွက်ရမည်။

၁၀-၂။ သတ္တုလုပ်ကွက်မြေနေရာအား ပြန်လည်ထူထောင်ခြင်း၊ သတ္တုတွင်းအား ပြန်လည်အပ်နှံခြင်းနှင့် သတ္တုတွင်းပိတ်သိမ်းခြင်းစီမံချက်များသည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းစဥ်များ၏ အစိတ်အပိုင်းဖြစ်ပြီး ၎င်းတွင် ပိတ်သိမ်းမှုလုပ်ငန်းအားလုံး၏ အသေးစိတ်နည်းစနစ်များ ပါဝင်သည်။ ကန်ထရိုက်တာအနေဖြင့် သတ္တုတွင်းပိတ်သိမ်းမှုစီမံချက်ကို ဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရမည်ဖြစ်ပြီး ၎င်းတွင် ဘဏ္ဍာရေးဆိုင်ရာ စီမံခန့်ခွဲမှု၊ စီစဥ်ဆောင်ရွက်ထားမှုများ ပါဝင်ရမည်။

၁၀-၃။ ကန်ထရိုက်တာသည် တည်ဆဲပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေများနှင့် သတ္တုတွင်းဝန်ကြီးဌာနနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနတို့မှ အခါအားလျော်စွာ ထုတ်ပြန်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ညွှန်ကြားချက်များကို လေးစားလိုက်နာရမည်။

## အပိုင်း (၁၁)
## လူမှုပတ်ဝန်းကျင်ဖွံ့ဖြိုးရေး တာဝန်ယူမှု

၁၁။ ကန်ထရိုက်တာအနေဖြင့် ဓာတ်သတ္တုအကြီးစား တူးဖော်ထုတ်လုပ်သည့် ကာလတစ်လျှောက်၌ ဒေသခံများနှင့် လူမှုပတ်ဝန်းကျင်ဆိုင်ရာ ဖွံ့ဖြိုးတိုးတက်မှုများကို တာဝန်ယူရမည်ဖြစ်ပြီး လူမှုပတ်ဝန်းကျင်ဆိုင်ရာ လေ့လာဆန်းစစ်ချက် (Social Impact Assessment) ကို လေ့လာ၍ လုပ်ငန်းစီမံချက်တစ်ရပ်ရေး ဆွဲထားရှိရမည်။

## အပိုင်း(၁၂)
## ဓာတ်သတ္တုခွန်နှင့် ပုံသေမြေငှားရမ်းခ

၁၂-၁။ ဤလုပ်ငန်းသဘောတူစာချုပ်အရထုတ်လုပ်ထွက်ရှိလာမည့် စုစုပေါင်းတန်ချိန်အပေါ် ဓာတ်သတ္တုခွန်ကို မြန်မာ့သတ္တုတွင်းဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဓာတ်သတ္တုပစ္စည်း (In Kind) အနေဖြင့် ဖြစ်စေ၊ အပိုင်း(၁၄)ပါ တန်ဖိုးသတ်မှတ်ချက်အတိုင်းဖြစ်စေ ကန်ထရိုက်တာမှ ဦးစီးဌာနသို့ ပေးဆောင်ရမည်။

၁၂-၂။ ကန်ထရိုက်တာသည် ပုံသေမြေငှားရမ်းခ (Dead Rent) ကို မြန်မာ့သတ္တုတွင်းဥပဒေ၊ နည်းဥပဒေများပါ ပြဋ္ဌာန်းချက်များ၊ သတ္တုတွင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၂၉.၈.၂၀၁၁) ရက်စွဲပါစာအမှတ်၊ ၁ (ခွဲ)(၁) / ၁၁ (၄၄၈၄) အရ ဦးစီးဌာနသို့ ပထမနှစ်အတွက် စာချုပ်မချုပ်ဆိုမီ ပေးဆောင်ရမည်။ကျန်နှစ်စဥ် ပေးသွင်းရမည့် မြေငှားရမ်းခများကို မြန်မာ့သတ္တုတွင်းနည်းဥပဒေ ၁၁၅ အပိုဒ်ခွဲ(ခ)နှင့် အညီ နှစ်ကြိမ်ခွဲ၍ နှစ်စဥ် ဧပြီလ (၁) ရက်နေ့နှင့် အောက်တိုဘာလ (၁)ရက်နေ့ ကျရောက်သည့်နေ့မှ ရက်ပေါင်း (၃၀) အတွင်း ပေးဆောင်ရမည်။

၁၂-၃။ ကန်ထရိုက်တာသည် ပုံသေမြေငှားရမ်းခ (DeadRent)ကို မြန်မာ့သတ္တုတွင်းဥပဒေ၊ နည်းဥပဒေများပါ ပြဋ္ဌာန်းချက်များ၊ သတ္တုတွင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏(၂၉.၈.၂၀၁၁)ရက်စွဲပါစာအမှတ်၊ ၁(ခွဲ)(၁)/ ၁၁ (၄၄၈၄)ဖြင့် သတ်မှတ်ချက်နှင့်အညီ ထုတ်လုပ်မှုကာလတွင် တစ်နှစ်လျှင်တစ်ဧကလျှင် တစ်စတုရန်းကီလိုမီတာအတွက် မြန်မာကျပ် ၃၀၀၀၀၀၀ ကို သတ္တုတွင်းဝန်ကြီးဌာန၊ သတ္တုတွင်းဦးစီးဌာနသို့ ပေးဆောင်ရမည်။

## အပိုင်း(၁၃)
## ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားခြင်း

၁၃-၁။ ဤသဘောတူစာချုပ်ပါ လုပ်ကိုင်ခွင့်ရှိသော လုပ်ကွက်ဧရိယာအတွင်း၌ တူးဖော်ထုတ်လုပ်ရာမှ ထွက်ရှိလာသော သံသတ္တုတန်ချိန်စုစုပေါင်း၏ (၄) ရာခိုင်နှုန်းကို အထက်အပိုဒ် ၁၂-၁ နှင့်အညီ နိုင်ငံတော်အတွက် ဓာတ်သတ္တုခွန်အဖြစ် ဦးစီးဌာနသို့ပေးဆောင်ပြီး နောက်ကျန်ရှိသော သံသတ္တုတန်ချိန်အပေါ်တွင် သတလ(၁)မှ (၃၀)ရာခိုင်နှုန်းနှင့် ကန်ထရိုက်တာမှ (၇၀)ရာခိုင်နှုန်းအချိုးဖြင့် အောက်ပါအတိုင်း လစဉ် ခွဲဝေယူရမည် -

| | | | | |
|---|---|---|---|---|
| **ထုတ်ကုန်ပစ္စည်း** | = | **ဓာတ်သတ္တုခွန်** | + | **ကျန်သံသတ္တု** |
| ၁၀၀ % | = | ၄% | + | ၉၆% |
| ၁၀၀ တန် | = | ၄ တန် | + | ၉၆ တန် |
| **ကျန်သတ္တု** | = | **သတလ(၁)** | + | **ကန်ထရိုက်တာ** |
| ၁၀၀ % | = | ၃၀% | + | ၇၀% |
| ၉၆ တန် | = | ၂၈.၈ တန် | + | ၆၇.၂ တန် |

၁၃-၂။ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားမှုအရ သတလ(၁)သည် ဓာတ်သတ္တုပစ္စည်း (In Kind) ကိုသော်လည်းကောင်း၊ အပိုင်း(၁၄)၊ အပိုဒ် ၁၄ တွင်ဖော်ပြထားသည့်ဈေးနှုန်းဖြင့် သတ္တုတွင်းဝန်ကြီးဌာနမှ အတည်ပြုထားသော ငွေသား (In Cash) ကိုသော်လည်းကောင်း ရယူနိုင်သည်။

## အပိုင်း(၁၄)
## ထုတ်ကုန်ပစ္စည်းတန်ဖိုးသတ်မှတ်ခြင်း

၁၄။ သတလ(၁)မှအချိုးကျရရှိမည့် ဓာတ်သတ္တုခွန်အတွက်ရရှိသည့် သတ္တုများကို ရောင်းချရာ၌ LME ဈေးနှုန်းကို အခြေခံ၍ ဦးစီးဌာနမှ တွက်ချက်ထားသော ဈေးနှုန်းထောက်ခံချက်ဖြင့် ဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြဆုံးဖြတ် သတ်မှတ်ရမည်။

## အပိုင်း(၁၅)
## သိုလှောင်ခြင်း၊ လွှဲပြောင်းခြင်းနှင့် သယ်ယူရောင်းချခြင်း

၁၅-၁။ ထုတ်လုပ်ရရှိသော သံသတ္တု/သတ္တုသန့်စင်များကို ကန်ထရိုက်တာသည် လုံခြုံရေးစိတ်ချရသော နေရာ၊ သိုလှောင်ခန်းတို့တွင် နှစ်ဖက်ညှိနှိုင်းသတ်မှတ်ထားသည့် လုံခြုံမှုအစီအမံအရ သေချာစွာ ထည့်သွင်းထား ရမည်။

၁၅-၂။ သတလ(၁)မှ အချိုးကျရရှိမည့် ဓာတ်သတ္တုများကို လိုအပ်ပါက သတလ(၁)မှ သတ်မှတ်ထားသော နေရာတွင် ကန်ထရိုက်တာမှ လွှဲပြောင်းပေးရမည်။

၁၅-၃။ အပိုဒ် ၁၃-၁ အရ ကန်ထရိုက်တာမှ အချိုးကျရရှိသော ဓာတ်သတ္တုများ သယ်ယူခြင်းကို ဝန်ကြီးဌာန လုပ်ထုံးလုပ်နည်းများနှင့်အညီ ပြည်တွင်း၌လွတ်လပ်စွာ ဆောင်ရွက်နိုင်သည်။

၁၅-၄။ သတလ(၁)မှ အချိုးကျရရှိသော ဓာတ်သတ္တုများ အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ကိုသော်လည်းကောင်း၊အပိုဒ်၁၄ပါတန်ဖိုးသတ်မှတ်ချက်အတိုင်းကန်ထရိုက်တာသို့ရောင်းချနိုင်သည်။

## အပိုင်း(၁၆)
## အခွန်အကောက်များ

၁၆-၁။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရမှ အခါအားလျော်စွာ သတ်မှတ်ပြဋ္ဌာန်းထားသော အခွန် အကောက်များကို တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ အမိန့်ညွှန်ကြားချက်များနှင့်အညီ ကန်ထရိုက်တာမှ ပေးဆောင်ရမည်။

၁၆-၂။ သတလ(၁)သည် ကန်ထရိုက်တာမှ ပေးဆောင်ရန်ရှိသည့် ဝင်ငွေခွန်နှင့် အခြားအခွန်အကောက် များကို တည်ဆဲအခွန်အကောက်ဆိုင်ရာ ဥပဒေပါအတိုင်း သက်သာခွင့်ရရှိရေးကို ကူညီဆောင်ရွက် ပေးရမည်။

## အပိုင်း(၁၇)
## အာမခံထားရှိခြင်း

၁၇။ ကန်ထရိုက်တာသည် မြန်မာ့အာမခံဥပဒေအရ လိုအပ်သော အာမခံများထားရှိရမည်။

## အပိုင်း(၁၈)
## အဆိုပြုငွေ

၁၈။ ကန်ထရိုက်တာသည် အဆိုပြုငွေအဖြစ် မြန်မာကျပ် ၂၄၀,၀၀၀,၀၀ /- (ကျပ် သိန်းနှစ်ရာ့လေးဆယ် တိတိ)ကို ဤသဘောတူစာချုပ် မချုပ်ဆိုမီ ပေးသွင်းရမည်။

## အပိုင်း(၁၉)
## ငွေပေးချေခြင်း

၁၉-၁။ ကန်ထရိုက်တာသည် ဤလုပ်ငန်းသဘောတူစာချုပ်အရ သတလ(၁)သို့ ပေးရန်ရှိသော အခကြေးငွေများကို သတလ(၁)မှ သတ်မှတ်ပေးထားသော မြန်မာနိုင်ငံအတွင်းရှိ အစိုးရဘဏ်တွင် ပေးချေရန် ကျရောက်သည့်နေ့မှ ရက်ပေါင်း(၃၀) အတွင်းပေးသွင်းရမည်။

၁၉-၂။ အကယ်၍ ကန်ထရိုက်တာသည် အပိုဒ် ၁၉-၁ပါ ပေးသွင်းရန်ရှိသော ငွေများကို ပေးသွင်းရန် ပျက်ကွက်ခဲ့လျှင် သတလ(၁)က ကန်ထရိုက်တာသို့ ရက်ပေါင်း (၉၀)အတွင်း စာဖြင့်(၃)ကြိမ်တိုင် အသိပေးနှိုးဆော်အကြောင်းကြားရန်ဖြစ်ပြီး ဆက်လက်ပျက်ကွက်နေပါက မြန်မာ့သတ္တုတွင်းနည်းဥပဒေအပိုဒ် ၈၀(က)နှင့်အညီ ဝန်ကြီးဌာနသို့တင်ပြ၍ ခွင့်ပြုမိန့်ကို ဆိုင်းငံ့ထားစေခြင်း (သို့မဟုတ်) ပယ်ဖျက်ခြင်းပြုနိုင်သည်။

## အပိုင်း(၂၀)
## အငြင်းပွားမှု ဖြေရှင်းခြင်း

၂၀။ ဤလုပ်ငန်းသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကိုခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအနုညာတစီရင် ဆုံးဖြတ်ခြင်းအက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေအမှတ် ၄/၁၉၄၄)နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီဖြစ်စေရမည်။ အငြင်းပွားမှုဖြေရှင်းဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော်ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

## အပိုင်း(၂၁)
## စီမံခန့်ခွဲခြင်း

၂၁-၁။ **ပူးတွဲစီမံခန့်ခွဲရေးကော်မတီ**

(က) သတလ(၁)နှင့် ကန်ထရိုက်တာတို့ ကိုယ်စားလှယ်များပါဝင်သော ပူးတွဲစီမံခန့်ခွဲရေးကော်မတီတစ်ခု ဖွဲ့စည်းရမည်။ ၄င်းကော်မတီတွင် အဖွဲ့ဝင်(၅)ဦးပါဝင်ပြီး သတလ(၁) ဦးဆောင်ညွှန်ကြားရေးမှူးသည် ဥက္ကဋ္ဌ ဖြစ်စေရမည်။ ကန်ထရိုက်တာမှအဖွဲ့ဝင်(၂)ဦး ပါဝင်စေလျက် သတလ(၁)မှ အဖွဲ့ဝင်(၃)ဦး ပါဝင်စေရမည်။ ဥက္ကဋ္ဌမှ ကော်မတီအတွင်းရေးမှူး တစ်ဦးကို

ခန့်ထားရမည်။ လိုအပ်ပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ပူးတွဲစီမံခန့်ခွဲရေးကော်မတီ အဖွဲ့ဝင်ကို ထပ်မံတိုးချဲ့ ဖွဲ့စည်းနိုင်သည်။

( ခ ) ကော်မတီသည် နေပြည်တော် (သို့မဟုတ်)နှစ်ဖက်သဘောတူညီမှုရရှိထားသော အခြားသင့်လျော်ရာ နေရာတွင် (၆)လတစ်ကြိမ် တွေ့ဆုံညှိနှိုင်းဆွေးနွေးရမည်။ လိုအပ်ပါက ဥက္ကဋ္ဌသည် ဤကော်မတီ၏ အစည်းအဝေးကို အချိန်မရွေး ခေါ်ယူနိုင်သည်။

( ဂ ) ကော်မတီဝင်များအတွက် အခကြေးငွေများ(သို့မဟုတ်) အခြားစရိတ်များကို ပူးတွဲစီမံခန့်ခွဲရေးကော်မတီ၏ အဆုံးအဖြတ်ဖြင့်သာ သတ်မှတ်ဆောင်ရွက်ရမည်။ ယင်းအခကြေးငွေကို ကန်ထရိုက်တာမှ ကျခံရမည်။

(ဃ) ကော်မတီသည် ဤစာချုပ်အရ ဓာတ်သတ္တုတူးဖော်ထုတ်လုပ်မှုနှင့် ပတ်သက်သော လုပ်ငန်းစဉ်များ၊ နည်းပညာဆိုင်ရာကိစ္စရပ်များ၊ စီမံခန့်ခွဲမှုကိစ္စများ၊ ရောင်းချမှုကိစ္စရပ်များအပါအဝင် ဤလုပ်ငန်းသဘောတူစာချုပ်ပါ လုပ်ငန်းအရပ်ရပ်ကို ညှိနှိုင်းဆွေးနွေး ဆောင်ရွက်ရမည်။

( င ) ကော်မတီ၏ ညှိနှိုင်းဆုံးဖြတ်ချက်များကို သတ္တုတွင်းဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြအတည်ပြုချက် ရယူဆောင်ရွက်ရမည်။

**၂၁-၂။ လုပ်ငန်း စီမံခန့်ခွဲခြင်း**

(က) ကန်ထရိုက်တာသည် နေ့စဉ်လုပ်ငန်းရပ်များ ကြီးကြပ်ကွပ်ကဲ ဆောင်ရွက်နိုင်ရန်အတွက် သတ်မှတ်သော အရည်အချင်းနှင့် ပြည့်စုံသည့် ကျွမ်းကျင်ပြီး အတွေ့အကြုံရှိသူတစ်ဦးအား မန်နေဂျာအဖြစ် ခန့်ထားရမည်။ မန်နေဂျာသည် ပူးတွဲစီမံခန့်ခွဲရေးကော်မတီမှ သတ်မှတ်ပေးထားသော စည်းမျဉ်းဘောင်အတွင်းမှ လုပ်ငန်းအစီအစဉ်များကို အပြည့်အဝတာဝန်ယူ၍ ကြီးကြပ်ကွပ်ကဲ ဆောင်ရွက်ရမည်။

( ခ ) ကန်ထရိုက်တာသည် အောက်ပါတာဝန်နှင့်လုပ်ပိုင်ခွင့်များကို မန်နေဂျာအား ကြီးကြပ်လမ်းညွှန်ပေး၍ လုပ်ကိုင်ဆောင်ရွက်စေရမည် -

(၁) နှစ်စဉ်ငွေကြေးအသုံးစရိတ် ခန့်မှန်းခြေများ ပြုစုရေးဆွဲခြင်းနှင့် လုပ်ငန်းစဉ်များအရ၊ ပြန်လည်ပြုပြင်ထားသည့် အသုံးစရိတ် ခန့်မှန်းခြေများ ပြုစုရေးဆွဲခြင်း။

(၂) လုပ်ငန်းကိစ္စအဝဝနှင့်သက်ဆိုင်သော သုံးလပတ်အစီရင်ခံစာနှင့် နှစ်ချုပ်အစီရင်ခံစာများ ရေးဆွဲခြင်း။

(၃) လုပ်ငန်းအတွက် လိုအပ်သောဝန်ထမ်းနှင့် လုပ်သားများကို သတလ(၁)၏ သဘောတူညီမှု ဖြင့်ဖြည့်စွက်ခြင်း၊ ခန့်ထားခြင်း။

(၄) လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် ကျန်းမာရေးကောင်းမွန်စေရေး၊ လုပ်ငန်းခွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စီမံခန့်ခွဲမှုအစီအစဉ်များကို အကောင်အထည်ဖော် ဆောင်ရွက်စေခြင်း။

## အပိုင်း(၂၂)
## လုပ်ငန်းများ ကြီးကြပ်ဆောင်ရွက်ခြင်း

၂၂-၁။ ကန်ထရိုက်တာသည် လုပ်ငန်းကာလအတွင်း သတလ(၁)မှ ကိုယ်စားလှယ်နှစ်ဦးထားရှိရန် သဘောတူရမည်။ ယင်းကိုယ်စားလှယ်များ၏ နေထိုင်သွားလာရေး၊ စားသောက်ရေးနှင့် ပူးတွဲစီမံခန့်ခွဲရေးကော်မတီမှ သတ်မှတ်ပေးထားသော လစဥ်ထောက်ပံ့ကြေးငွေများကို ကန်ထရိုက်တာမှ စီမံဆောင်ရွက်ပေးရမည်။

၂၂-၂။ သတလ(၁)ကိုယ်စားလှယ်များအား ဤလုပ်ငန်းသဘောတူစာချုပ်ပါ လုပ်ကိုင်ခွင့်ရှိသော လုပ်ကွက်များ၌ ထူထောင်မှုလုပ်ငန်းများ၊ ထုတ်လုပ်မှုလုပ်ငန်းများကို ဤလုပ်ငန်းသဘောတူစာချုပ်ပါအတိုင်း ကြီးကြပ် ဆောင်ရွက်စေရမည်။ ကိုယ်စားလှယ်များသည် ပုံမှန်လုပ်ငန်း ဆောင်ရွက်နေမှုများကို ဝင်ရောက်စွက်ဖက်မှုမျိုး မဖြစ်စေရ။

၂၂-၃။ ဝန်ကြီးဌာနမှ တာဝန်ပေးအပ်ထားသောစစ်ဆေးရေးအရာရှိများသည် လိုအပ်ပါက သင့်လျော်သည့်အချိန်တွင် ဤလုပ်ငန်းသဘောတူစာချုပ်အရ လုပ်ကိုင်ခွင့်ရှိသော ဧရိယာအတွင်းရှိ လုပ်ငန်းများအား ဝင်ရောက် စစ်ဆေးခွင့်ရှိသည်။ ကန်ထရိုက်တာသည် အထက်ဖော်ပြပါ ပုဂ္ဂိုလ်များမှ ကန်ထရိုက်တာ၏ လုပ်ငန်းများနှင့်ပတ်သက်သော နည်းပညာပိုင်းဆိုင်ရာနှင့် ထုတ်လုပ်မှုလုပ်ငန်းဆိုင်ရာ အချက်အလက်များ၊ စာရင်းဇယားများ တောင်းခံလာပါက ဆောလျင်စွာ ကူညီပံ့ပိုးပေးရမည်။

## အပိုင်း(၂၃)
## အာမခံစပေါ်ငွေ

၂၃-၁။ ကန်ထရိုက်တာသည် ဤလုပ်ငန်းသဘောတူစာချုပ် မချုပ်ဆိုမီ အာမခံစပေါ်ငွေအဖြစ် မြန်မာကျပ် ၄၈၀,၀၀၀,၀၀/-(ကျပ် သိန်းလေးရာ့ရှစ်ဆယ်တိတိ)ကို နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်၊ သတလ(၁) ငွေစာရင်းအမှတ် CF001074 သို့ပေးသွင်းရမည်။အာမခံစပေါ်ငွေကိုလုပ်ငန်းသဘောတူစာချုပ်သက်တမ်းတိုးမြှင့်သည့်ကာလအထိ(သို့မဟုတ်)ကန်ထရိုက်တာမှ လုပ်ငန်းသဘောတူစာချုပ်ပါတာဝန်ဝတ္တရားများအားလုံးဆောင်ရွက်ပြီးစီးသည်အထိလုပ်ငန်းသဘောတူစာချုပ်သက်တမ်းတစ်လျှောက်ထားရှိရမည်။

၂၃-၂။ ဤလုပ်ငန်းသဘောတူစာချုပ်ပါ သဘောတူညီချက်များအတိုင်း ဆောင်ရွက်ရန် ကန်ထရိုက်တာမှ ပျက်ကွက် ခဲ့လျှင် အပိုင်း(၂၄)ပါအတိုင်း စာချုပ်ကိုရပ်စဲ၍ သတလ(၁)မှ အာမခံစပေါ်ငွေအားလုံးကို သိမ်းယူနိုင်သည်။ လုပ်ငန်းသဘောတူစာချုပ် သက်တမ်းကုန်ဆုံးလျှင်သော်လည်းကောင်း၊ကန်ထရိုက်တာ၏ အပြစ်ကြောင့် မဟုတ်ဘဲတစ်စုံတစ်ရာသော အကြောင်းကြောင့် နှစ်ဖက်လုပ်ငန်းသဘောတူစာချုပ် ဖျက်သိမ်းလျှင်သော်လည်းကောင်း၊ သတလ(၁)သည် ကန်ထရိုက်တာမှ ပေးရန်ကျန်ရှိသော ကြွေးမြီများကိုနုတ်ယူ၍ ကျန်သောအာမခံစပေါ်ငွေကို ကန်ထရိုက်တာသို့ ပြန်လည်ထုတ်ပေးရမည်။

## အပိုင်း(၂၄)
## စာချုပ်ရပ်စဲခြင်း

၂၄-၁။ ဤလုပ်ငန်းသဘောတူစာချုပ်ကို အောက်ဖော်ပြပါအချက်အလက်များအနက် တစ်ခုခုဖြစ်ပေါ်လာပါက မည်သည့်ဘက်ကမဆို ရက်ပေါင်း(၉၀) ကြိုတင်သတိပေးပြီး၊ ဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် စာချုပ်ရပ်စဲနိုင်သည်-

(က) တူးဖော်ထုတ်လုပ်မှုလုပ်ငန်းသည် နှစ်နှစ်ဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း။

( ခ) လုပ်ငန်းသဘောတူစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်အား စာချုပ်ဝင်တစ်ဖက်ဖက်မှ ဖောက်ဖျက်ခြင်း။

( ဂ) မလွန်ဆန်နိုင်သောဖြစ်ရပ်တစ်ခုသည် (၆)လထက်ကျော်လွန်၍ တစ်ဆက်တည်းဖြစ်ပွားနေခြင်း။

(ဃ) လုပ်ငန်းသဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ (၆) လအတွင်းလုပ်ငန်းများ စတင်ဆောင်ရွက်နိုင်မှုမရှိခြင်း။

( င) လုပ်ငန်းသဘောတူစာချုပ်သက်တမ်းကာလအတွင်း ခွင့်ပြုလုပ်ကွက်နှင့် စပ်လျဉ်းသည့် ပိုင်ဆိုင်မှု၊ အသုံးပြုမှုဆိုင်ရာ အရှုပ်အရှင်းတစ်စုံတစ်ရာ ဖြစ်ပွားခြင်း။

( စ) လုပ်ငန်းသဘောတူစာချုပ် သက်တမ်းကုန်ဆုံးခြင်း။

၂၄-၂။ ဤလုပ်ငန်းသဘောတူစာချုပ်၌ တစ်စုံတစ်ရာ ပါဝင်မှုမရှိစေကာမူ နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး၊ စာဖြင့်ရေးသားထားသော သဘောတူညီချက်ရယူ၍ ဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဤလုပ်ငန်းသဘောတူစာချုပ်ကို ရပ်စဲနိုင်သည်။

၂၄-၃။ ဤလုပ်ငန်းသဘောတူစာချုပ်ကို ရပ်စဲခြင်းအားဖြင့် ဤလုပ်ငန်းသဘောတူစာချုပ်ပါ ရှေ့ဆက်လက်ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများ၊ လုပ်ကိုင်ခွင့်များ၊ လုပ်ငန်းဆောင်ရွက်ရန် အချက်အလက်များအားလုံး လုံးဝ ပြီးပြတ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။ သို့ရာတွင် ကန်ထရိုက်တာသည် ပေးရန်တာဝန်များအတွက် ဆက်လက် တာဝန်ရှိစေရမည်။

၂၄-၄။ ဤလုပ်ငန်းသဘောတူစာချုပ်ပါ ကန်ထရိုက်တာ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း၊ မတည်ငွေရင်းတို့နှင့် စပ်လျဉ်း၍ မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ တိုက်ရိုက်သော် လည်းကောင်း၊ သွယ်ဝိုက်၍သော်လည်းကောင်း ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ခွင့်ပြုမိန့် ရုပ်သိမ်းခြင်းနှင့် စာချုပ်ရပ်စဲသည်အထိ အရေးယူခြင်းခံရမည်။

## အပိုင်း(၂၅)
## ထိန်းသိမ်းခြင်း

၂၅။ ကန်ထရိုက်တာသည် ဤလုပ်ငန်းသဘောတူစာချုပ်ပါအချက်အလက်များ၊ စာချုပ်ပါတာဝန်များ၊ လုပ်ငန်းအစီအစဉ်များနှင့် အခြားပတ်သက်ရာပတ်သက်ကြောင်း သတင်းအချက်အလက်များကို ဥပဒေနှင့်အညီ ထိန်းသိမ်းထားရမည်။

## အပိုင်း(၂၆)
## မှတ်တမ်းများ၊ ငွေစာရင်းများနှင့် စာရင်းစစ်ဆေးခြင်း

၂၆-၁။ ကန်ထရိုက်တာသည် ဤလုပ်ငန်းသဘောတူစာချုပ်ပါလုပ်ငန်းနှင့်ပတ်သက်သည့် မှတ်တမ်းများ၊ ငွေစာရင်းများစသည်တို့ကို မြန်မာနိုင်ငံစာရင်းကောင်စီမှထုတ်ပြန်ထားသည့် Myanmar Accounting Standard များအတိုင်း စာရင်းများထိန်းသိမ်းထားရှိရန် တာဝန်ရှိသည်။ စာရင်းဇယားများကို မြန်မာဘာသာဖြင့် ထားရှိရမည်။

၂၆-၂။ ဤလုပ်ငန်းသဘောတူစာချုပ်အရ သတလ(၁)သည် ထုတ်လုပ်မှု သို့လှောင်မှု မှတ်တမ်းများနှင့် ပတ်သက်၍ စစ်ဆေးခွင့်ရှိသည်။

၂၆-၃။ သတလ(၁)သည် လိုအပ်ပါက ပြင်ပမှ စာရင်းစစ်တစ်ဦးကို စစ်ဆေးရန် ခန့်ထားနိုင်သည်။

## အပိုင်း(၂၇)
## မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၂၇-၁။ **"မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ"** သဘာဝဘေးအန္တရာယ်ကျရောက်မှု၊ ရေကြောင့် ဘေးအန္တရာယ်ကျရောက်မှု၊ သပိတ်မှောက်ခြင်း၊ အလုပ်သမားများ၏ နှောင့်ယှက်မှုများ၊ စစ်ဖြစ်ပွားခြင်း၊ ပိတ်ဆို့မှု၊ ဆူပူမှု၊ ကူးစက်တတ်သောရောဂါဖြစ်ပွားမှု၊ မြေပြိုခြင်း၊ လျှော်လှုပ်ခြင်း၊ မုန်တိုင်းကျခြင်း၊ မိုးကြိုးပစ်ခြင်း၊ ရေကြီးခြင်း၊ ရေလွှမ်းမိုးခြင်း၊ ပေါက်ကွဲခြင်းများနှင့် အခြားအလားတူထိန်းချုပ်၍ မရနိုင်သောဖြစ်ရပ်များ(သို့မဟုတ်)မည်သည့်ဘက်ကမျှ ကြိုးစားအားထုတ်မှုဖြင့် တားဆီးမရနိုင်သောဖြစ်ရပ်များ ပါဝင်သည်။

၂၇-၂။ ကန်ထရိုက်တာက မိမိလိုက်နာဆောင်ရွက်ရမည့် တာဝန်တစ်စိတ်တစ်ဒေသ ကိုဖြစ်စေ၊ အားလုံးကို ဖြစ်စေ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ခေတ္တဆိုင်းငံ့ရမည့်အခြေအနေ ပေါ်ပေါက်လာလျှင် (၂၁) ရက် (နှစ်ဆယ့်တစ်ရက်) အတွင်း သတလ(၁)သို့ စာဖြင့် အကြောင်းကြားရမည်။ ဤသို့ အကြောင်းကြားခြင်းကို သတလ( ၁) မှ လက်ခံစိစစ်ပြီး ဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် မလွန်ဆန်နိုင်သောဖြစ်ရပ် အချိန်ကာလအတွက် ဆောင်ရွက်ရမည့်တာဝန်များ ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေး

ကြန့်ကြာမှုများကို မလွန်ဆန်နိုင်သော ဖြစ်ရပ်နှင့်အညီ ကင်းလွတ်ခွင့်ပြုရမည်။ ထိုမလွန်ဆန်နိုင်သော အခြေအနေကို အမြန်ဆုံး ကျော်လွှားနိုင်အောင် ဆောင်ရွက်ရမည်။

၂၇-၃။ အပိုဒ် ၂၇-၁ ပါ အတိုင်း မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်မှုကို တစ်ဖက်မှ အသိပေးပြီးနှစ်ဦး နှစ်ဖက် အတည်ပြုလက်ခံထားသောဖြစ်ရပ်မှ ပေါ်ပေါက်လာသည့်ကြန့်ကြာမှု၊ ဆုံးရှုံးမှုများအတွက် မည်သည့်ဘက် တွင်မှ တာဝန်မရှိစေရ။

## အပိုင်း(၂၈)
## အခြားဓာတ်သတ္တုပစ္စည်းများတွေ့ရှိခြင်း

၂၈-၁။ ဤလုပ်ငန်းသဘောတူစာချုပ်အရ သံသတ္တုရိုင်းတူးဖော်ထုတ်လုပ်နေစဉ် သံသတ္တုရိုင်းမှအပ အခြားသော ဓာတ်သတ္တုပစ္စည်းများ၊ အဖိုးတန်ဓာတ်သတ္တုများဖြစ်သည့် ရွှေ၊ စိန်၊ ကျောက်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများတစ်ခုခုကို မိမိလုပ်ကွက်အတွင်း၌ တူးဖော်တွေ့ရှိပါက ထိုသို့ တွေ့ရှိကြောင်း ကန်ထရိုက်တာက သတလ(၁)သို့ ချက်ချင်းအကြောင်းကြားပြီး နိုင်ငံတော်သို့ အပ်နှံရမည်။ တူးဖော်တွေ့ရှိသော သံသတ္တုရိုင်းမှအပ အခြားဓာတ်သတ္တုပစ္စည်းများ၊ အဖိုးတန်ဓာတ်သတ္တုများဖြစ်သည့် ရွှေ၊ စိန်၊ ကျောက်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်း ပစ္စည်းများသည် နိုင်ငံတော်ပိုင်ဖြစ်ပြီး ကန်ထရိုက်တာနှင့် လုံးဝမသက်ဆိုင်စေရ။

၂၈-၂။ အကယ်၍ ကန်ထရိုက်တာသည် သံသတ္တုရိုင်းတူးဖော်ရန် လုပ်ကိုင်ခွင့်ရရှိသော ဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်နေစဉ် ယူရေနီယံကဲ့သို့ (Radioactive Mineral) သတ္တုများ၊ နိုင်ငံတော်အစိုးရကသာ လုပ်ကိုင်ခွင့်ရှိသော မဟာဗျူဟာမြောက်ဓာတ်သတ္တုများတွေ့ရှိပါက နိုင်ငံတော်ကသာ လုပ်ကိုင်ခွင့်ရှိသည်။ ယင်းအပြင် အခြားဓာတ်သတ္တုကိုတွေ့ရှိရ၍ ယင်းဓာတ်သတ္တုကိုလည်း တူးဖော်လုပ်ကိုင်လိုပါက ဆက်လက်လုပ်ဆောင်လိုသည်များကို ကန်ထရိုက်တာနှင့် သတလ(၁)တို့ ညှိနှိုင်း၍ ဝန်ကြီးဌာန၏ အတည်ပြု ခွင့်ပြုချက်ဖြင့်သာ ဆက်လက်ဆောင်ရွက်ရမည်။

## အပိုင်း(၂၉)
## လွှဲပြောင်း၍ မရနိုင်သော အခွင့်အရေး

၂၉။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏လွှဲပြောင်း၍မရနိုင်သော နိုင်ငံတော်၏ မြေပေါ်မြေအောက်၊ ရေပေါ်ရေအောက်သယံဇာတများကို တစ်ဦးတည်း ပိုင်ဆိုင်ခွင့်နှင့် မူလဘူတအခွင့်အရေး ကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏ အငြင်းပွားမှုဖြေရှင်းရန် တင်ပြသည့် သဘောတူညီချက် အပါအဝင် ဤလုပ်ငန်းသဘောတူစာချုပ်ပါ မည်သည့် ပြဋ္ဌာန်းချက်ကမျှ တားမြစ်ခြင်း သို့မဟုတ် ကန့်သတ်ခြင်း မပြုနိုင်။

# အပိုင်း(၃၀)

## အထွေထွေ

၃၀-၁။ ဤလုပ်ငန်းသဘောတူစာချုပ်အား နှစ်ဦးနှစ်ဖက်သဘောတူလက်မှတ်ရေးထိုးပြီးပါက ပြည်ထောင်စု ရှေ့နေချုပ်ရုံးသို့ မှတ်တမ်းတင်ရန် ပေးပို့ရမည်။

၃၀-၂။ ကန်ထရိုက်တာသည် သတလ(၁)သို့ ထုတ်လုပ်မှုကာလအတွင်း ပေးသွင်းရမည့် ထုတ်လုပ်မှုအချိုး၊ ငွေများ၊ အခွန်အခများကို အပြည့်အဝ သို့မဟုတ် တစ်စိတ်တစ်ပိုင်း ပေးသွင်းရန် ပျက်ကွက်ပါက တည်ဆဲဥပဒေများ၊ လုပ်ငန်းသဘောတူစာချုပ်တွင် ပါရှိသည့် စည်းကမ်းသတ်မှတ်ချက်များ အတိုင်း အရေးယူခံရမည့်အပြင် ကန်ထရိုက်တာအား သတ္တုတွင်းဝန်ကြီးဌာနနှင့် သက်ဆိုင်သော မည်သည့် လုပ်ငန်းကိုမျှ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုမည် မဟုတ်ပါ။

၃၀-၃။ ဤလုပ်ငန်း သဘောတူစာချုပ် သက်တမ်းကုန်ဆုံးလျှင် သော်လည်းကောင်း၊ စာချုပ်ရပ်စဲလျှင်သော် လည်းကောင်း၊ ကန်ထရိုက်တာမှ ပေးသွင်းရန်ရှိသော ငွေများ၊ အခွန် အခများကို မြေခွန်မပြေကျန်ငွေ ဖြစ်ဘိသကဲ့သို့ ပြီးပြတ်သည်အထိ ကန်ထရိုက်တာမှ တာဝန်ယူအပြည့်အဝ ရှင်းလင်းပေးသွင်းရမည်။ ခွင့်ပြုမိန့်အား သတလ(၁)မှတစ်ဆင့် ဝန်ကြီးဌာနသို့ ပြန်လည်အပ်နှံရမည်။ ခွင့်ပြုမိန့်အား ပြန်လည် အပ်နှံရန်ပျက်ကွက်ပါက ကန်ထရိုက်တာအား သတ္တုတွင်းဝန်ကြီးဌာနနှင့် သက်ဆိုင်သော မည်သည့် လုပ်ငန်းကိုမျှ လုပ်ကိုင်ဆောင်ရွက်ခွင့် ပြုမည်မဟုတ်ပါ။

၃၀-၄။ ဤလုပ်ငန်းသဘောတူစာချုပ်သည်သာလျှင် နှစ်ဦးနှစ်ဖက်အတည်ပြုထားသော သဘောတူညီချက် ဖြစ်သည်။ ဤကိစ္စနှင့်ပတ်သက်၍ ယခင်ကနှုတ်ဖြင့်သော်လည်းကောင်း၊ စာဖြင့်သော်လည်းကောင်း သဘောတူညီချက်ရှိခဲ့လျှင် ထိုသဘောတူညီချက်များသည် ဆက်လက်၍ အကျိုးသက်ရောက်မှု မရှိစေရ။

၃၀-၅။ ဤလုပ်ငန်းသဘောတူစာချုပ် သက်တမ်းကုန်ဆုံးသောနေ့တွင် သက်တမ်းတိုးမှုမရှိပါက ဤလုပ်ငန်း သဘော တူစာချုပ် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်စေရမည်။

၃၀-၆။ ဤလုပ်ငန်းသဘောတူစာချုပ်နှင့်ပတ်သက်၍ အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများကို စာတိုက်၊ စကားပြောကြေးနန်း၊ တဲလက်စ်၊ အီးမေးလ်၊ ဖက်စ်၊ ကြိုးမဲ့ကြေးနန်း၊ ကြေးနန်းတို့ဖြင့် ပေးပို့သူက ကျသင့်ငွေကြိုတင် ပေးချေ၍ ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ရာတွင် အောက်ဖော်ပြပါ လိပ်စာများအတိုင်း ဆက်သွယ်ဆောင်ရွက်ရမည် -

| **အမှတ်( ၁)သတ္တုတွင်းလုပ်ငန်း** | **ကန်ထရိုက်တာ** |
|---|---|
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်နေးဂျင်းဒါရိုက်တာ |
| အမှတ်(၁)သတ္တုတွင်းလုပ်ငန်း | ဆန်းလင်းအင်တာနေရှင်နယ်အိတ်(စ်)ပို့အင်(န်) |
| နေပြည်တော် | ကုမ္ပဏီလီမိတက် |
| ဖုန်း - ၀၆၇ ၄၀၉ ၀၁၁ | တိုက်အမှတ် ၃၈၇၊၁၅/၂၇ ရွှေဘုံသာအထက် |
| ဖက်စ် - ၀၆၇ ၄၀၉ ၃၇၉ | လမ်း၊ပန်းဘဲတန်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး |
| အီးမေးလ်- | ဖုန်း -၀၁ -၅၄၉၇၄၀၊၀၇၄-၂၀၈၂၁၊၀၉၆၄၀၀၆ |
| | အီးမေးလ်- |

၃၀-၇။ တစ်ဖက်မှ တစ်ဖက်သို့ ဆက်သွယ်သောစာများကို လက်ခံရရှိကြောင်း ပြန်ကြားရမည်။

**စာချုပ်အား လွှဲပြောင်းခြင်း**

၃၀-၈။ ကန်ထရိုက်တာသည်သတလ(၁)နှင့်ဝန်ကြီးဌာန၏ ကြိုတင်သဘောတူခွင့်ပြုချက်မရဘဲ၊ ဤလုပ်ငန်းသဘောတူ စာချုပ်ပါ တာဝန်ဝတ္တရားအားလုံးအား အခြားပုဂ္ဂိုလ်အဖွဲ့အစည်းများသို့ လွှဲပြောင်းခြင်း (သို့မဟုတ်) လုပ်ငန်းတစ်စိတ်တစ်ဒေသကို အပ်နှံဆောင်ရွက်စေခြင်းတို့ကို မပြုလုပ်ရ။

**စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း**

၃၀-၉။ ဤလုပ်ငန်းသဘောတူစာချုပ်အား စာချုပ်ဝင်နှစ်ဦးနှစ်ဖက်၏စာဖြင့် သဘောတူညီမှုမပါဘဲ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ ဤလုပ်ငန်းသဘောတူစာချုပ်အား ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများသည် ဝန်ကြီးဌာန၏ ခွင့်ပြုချက်ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

**စာချုပ်အား ပြန်လည်ညှိနှိုင်းခြင်း**

၃၀-၁၀။ ဤလုပ်ငန်းသဘောတူစာချုပ် သက်တမ်းအတွင်း၌ ကန်ထရိုက်တာနှင့် သတလ(၁)တို့သည် ကြိုတင်မမျှော်မှန်းနိုင်သော အခြေအနေတစ်ခုခု ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီချက်ရယူ၍ ဤလုပ်ငန်းသဘောတူစာချုပ်ကိုပြင်ဆင်နိုင်သည်။ ထိုသို့ပြင်ဆင်ချက်အား သတ္တုတွင်းဝန်ကြီးဌာနသို့ တင်ပြ၍ ခွင့်ပြုချက်ရယူရမည်။ သို့သော် လုပ်ငန်းသဘောတူစာချုပ်၏ မူလရည်ရွယ်ချက်အား ပျက်ပြယ်သွားခြင်း မရှိစေရ။

၃၀-၁၁။ ဤလုပ်ငန်းသဘောတူစာချုပ်ပါ နောက်ဆက်တွဲများသည် ဤလုပ်ငန်းသဘောတူစာချုပ်၏ အစိတ်အပိုင်းတစ်ရပ် ဖြစ်စေရမည်။

## အပိုင်း(၃၁)
## အကျိုးသက်ရောက်မှု

၃၁။ ဤလုပ်ငန်းသဘောတူစာချုပ်သည် သတ္တုတွင်းဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ ( ) အစည်းအဝေးမှသဘောတူခွင့်ပြုချက်အရ ဓာတ်သတ္တုအကြီးစားထုတ်လုပ်ရန် ခွင့်ပြုမိန့်ပါ လုပ်ငန်းဆောင်ရွက်ခွင့်ပြုသည့် ၂၀၁၅၊ လ( )ရက်နေ့မှစတင်၍ သက်ဝင်အကျိုးသက်ရောက်ရမည်။

## အပိုင်း(၃၂)
## အစစ်အမှန်ဖြစ်ခြင်း

၃၂။ ဤလုပ်ငန်းသဘောတူစာချုပ်အား မြန်မာဘာသာဖြင့် ရေးသားပြီး မူရင်း(၂)အုပ်သာရှိ၍ တစ်ဖက်စီ၌ (၁) အုပ်စီ ထားရှိရမည်။ ဤလုပ်ငန်းသဘောတူစာချုပ်ကို ၂၀၁၅ ခုနှစ်၊ လ၊ ရက်တို့တွင် အောက်ပါ အသိသက်သေများ ရှေ့မှောက်၌ သဘောတူ လက်မှတ်ရေးထိုးကြပါသည်။

| | | | |
|---|---|---|---|
| အမှတ် (၁)သတ္တုတွင်းလုပ်ငန်း (ကိုယ်စား) | | ဆန်းလင်းအင်ဗာနေရှင်နယ်အိတ်(စ်)ပို့အင်(န်)အင်ပို့ကုမ္ပဏီလီမိတက်(ကိုယ်စား) | |
| လက်မှတ်၊ | | လက်မှတ်၊ | |
| အမည်၊ | ဦးကျော်ဆန်း | အမည်၊ | ဦးဇခုန်တိန့်ယိန်း |
| ရာထူး၊ | ဦးဆောင်ညွှန်ကြားရေးမှူး | ရာထူး၊ | ဥက္ကဋ္ဌ |
| ဌာန၊ | အမှတ်(၁)သတ္တုတွင်းလုပ်ငန်း သတ္တုတွင်းဝန်ကြီးဌာန | ဌာန၊ | ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့အင်(န်)အင်ပို့ ကုမ္ပဏီလီမိတက် |

ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးပါသည်။
အသိသက်သေများ

| | | | |
|---|---|---|---|
| လက်မှတ်၊ | | လက်မှတ်၊ | |
| အမည်၊ | ဦးထွန်းထွန်းလွင် | အမည်၊ | ဦးမြင့်ဦး |
| ရာထူး၊ | ညွှန်ကြားရေးမှူး(စီမံကိန်း) | ရာထူး၊ | မန်နေးဂျင်းဒါရိုက်တာ |
| ဌာန၊ | အမှတ်(၁)သတ္တုတွင်းလုပ်ငန်း သတ္တုတွင်းဝန်ကြီးဌာန | ဌာန၊ | ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့အင်(န်)အင်ပို့ ကုမ္ပဏီလီမိတက် |

နောက်ဆက်တွဲ(က)

## ခွင့်ပြုလုပ်ကွက်၏ နယ်နိမိတ်မြေပုံနှင့် ရှင်းလင်းဖော်ပြချက်

ဤစာချုပ်အပိုင်း-၄ အရ **ကန်ထရိုက်တာ** အား လုပ်ကိုင်ခွင့်ပြုသည့်လုပ်ကွက်သည် အောက်တွင်ဖော်ပြထားသည့် ရှင်းလင်းချက်နှင့် မြေပုံညွှန်းများအတိုင်းဖြစ်သည်-

**တည်နေရာ** - ကချင်ပြည်နယ်၊ ချီဖွေမြို့နယ်၊ ဖိမော်ကျေးရွာအုပ်စု၊ လုနော့ဂျန် ကျေးရွာအနီးရှိ လုပ်ကွက်

**ခန့်မှန်းမြေပုံညွှန်း** - မြေပုံရွှက်ရေအမှတ် ၉၂ကေ/၉၊ (၁)လက်မ(၁)မိုင်စကေး

အေ-365178၊ဘီ-369178၊စီ-369172၊ဒီ-365172<br>
အေ-353177၊ဘီ-357177၊စီ-357171၊ဒီ-353171<br>
အေ-358172၊ဘီ-364172၊စီ-364168၊ဒီ-358168<br>
အေ-358182၊ဘီ-364182၊စီ-346178၊ဒီ-358178<br>
} (၁၉၈)ဧက

**အကျယ်အဝန်း** - ဧရိယာ(၄၉.၅)ဧကစီရှိ(၄)ကွက်၊ (၁၉၈) ဧက နောက်ဆက်တွဲ(က-၁) ၊နောက်ဆက်တွဲ(က-၂)၊ နောက်ဆက်တွဲ (က-၃)၊ နောက်ဆက်တွဲ(က-၄)၊နောက်ဆက်တွဲ(က-၅)နှင့်နောက်ဆက်တွဲ(က-၆) မြေပုံပါအတိုင်း ဖြစ်ပါသည်။

## ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ ဖီမော်ကျေးရွာအုပ်စု လုနော့ဂျန်ကျေးရွာအနီးလုပ်ကွက် ဆန်းလင်းအင်တာနေရှင်နယ်အိတ်စပို့အန်အင်ပို့ကုမ္ပဏီလီမိတက်တို့ ထုပ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်စနစ် သံသတ္တုအကြီးစားထုတ်လုပ်ခွင့်ရရှိသောခွင့်ပြုလုပ်ကွက်၏ တည်နေရာပြမြေပုံ

စကေး ၁ လက်မ = ၁ မိုင်

မြေပုံချပ် အမှတ် 92-K/9




ရည်ညွှန်းချက်

သံသတ္တုရိုင်းအဆိုပြုလုပ်ကွက်အမှတ်(၁) (A-365178,B-369178,C-369172,D-365172)

သံသတ္တုရိုင်းအဆိုပြုလုပ်ကွက်အမှတ်(၂) (A-353177,B-357177,C-357171,D-353171)

သံသတ္တုရိုင်းအဆိုပြုလုပ်ကွက်အမှတ်(၃) (A-358172,B-364172,C-364168,D-358168)

သံသတ္တုရိုင်းအဆိုပြုလုပ်ကွက်အမှတ်(၄) (A-358182,B-364182,C-364178,D-358178)

ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ဖိမော်ကျေးရွာ၊ လုနော့ဂျန်ကျေးရွာအနီးရှိ လုပ်ကွက်
ဆန်းလင်းအင်တာနေရှင်နယ် အိတ်စပို့အန်အင်ပို့ကုမ္ပဏီလီမိတက်သို့ ထုတ်လုပ်မှုအပေါ်
ခွဲဝေခံစားသည့်စနစ် သံသတ္တုအကြီးစား ထုတ်လုပ်ခွင့်ရရှိသော ခွင့်ပြုလုပ်ကွက်၏
ဧရိယာအကျယ်အဝန်းနှင့် ပုံသဏ္ဍာန်ပြမြေပုံ




အညွှန်း

အကြီးစားထုတ်လုပ်ရန်လျှောက်ထားသောလုပ်ကွက်တို့၏တည်နေရာ

